http://www.dhammadownload.com




အဂ္ဂမဟာပဏ္ဍိတ
အရှင်နန္ဒမာလာဘိဝံသ (Ph.D)

# အဘိဓမ္မာ မြတ်ဒေသနာ

(ဒုတိယတွဲ)

http://www.dhammadownload.com

ဒေါက်တာ အရှင်နန္ဒမာလာဘိဝံသ

# အဘိဓမ္မာ မြတ်ဒေသနာ

(ဒုတိယတွဲ)



http://www.dhammadownload.com

ကွန်ပျူတာစာစီ
အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်

ထုတ်ဝေသူ
အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်
ညွှန်ကြားရေးမှူး ဦးဘဟိန်း
မှတ်ပုံတင်အမှတ်(၀၄၃၇၂/၂၀၁၁)က ပုံနှိပ်ထုတ်ဝေသည်။

တရားစာအုပ်များကို
ဓမ္မစာပေ အလှူငွေဖြင့် ပုံနှိပ်ဖြန့်ဝေသည်

http://www.dhammadownload.com

# မာတိကာ

http://www.dhammadownload.com

## မှတ်တမ်း

သာသနာတော် သက္ကရာဇ် ၂၅၅၂-ခုနှစ်၊ ကောဇာ သက္ကရာဇ် ၁၃၇၀-ပြည့်နှစ်၊ တပေါင်းလပြည့်ကျော် ၁၁-ရက်၊ ရန်ကုန်တိုင်း၊ စမ်းချောင်းမြို့နယ်၊ အောင်ချမ်းသာရပ်ကွက်၊ သီရိမင်္ဂလာလမ်း ကံမြင့်ကျောင်းတိုက် ဓမ္မာရုံတွင် ဆင်ယင်ကျင်းပ ပြုလုပ်သည့် ညဥ့်ဦးယံ ဓမ္မသဘင်ဝယ် ဟောကြားအပ်သော "အဘိဓမ္မာ မြတ်ဒေသနာ အပိုင်း(၂)" နှင့် စပ်လျဉ်းသည့် "စိတ်ဖြစ်ပုံကို လေ့လာခြင်း" အကြောင်း တရားဒေသနာတော် ဖြစ်ပါသည်။

http://www.dhammadownload.com

# အဘိဓမ္မာမြတ်ဒေသနာ အပိုင်း (၂)

## အခန်း - ၁

### စိတ်ဖြစ်ပုံကို လေ့လာခြင်း

ဒီကနေ့ည ပကိဏ်းပိုင်းမှာ လာရှိတဲ့ အကြောင်းအရာ၊ ဝီထိပိုင်းမှာ လာရှိတဲ့ အကြောင်းအရာနဲ့ ဝီထိမုတ်ပိုင်းမှာ လာရှိတဲ့ အကြောင်းအရာ အဲဒီအပိုင်း ၃-ပိုင်းမှာ လာရှိတဲ့ အကြောင်းအရာများကို တစ်ခုနှင့်တစ်ခု ဆက်စပ်ပြီး သိသာရုံ မြင်သာရုံ သိလွယ်မြင်လွယ်အောင် ဟောကြားပြသမှာ ဖြစ်ပါတယ်။

အခုဟောတဲ့ အဘိဓမ္မာမြတ်ဒေသနာဆိုတာ မိတ်ဆက် **introduction** အနေနဲ့ ဟောထားတာ၊ ရှေ့မှာ လေ့လာစရာတွေ အများကြီးရှိသေးတယ်ဆိုတာ စိတ်ထဲမှာမှတ်ထားပါ။ ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူတဲ့ တရားဓမ္မတွေက အလွန်ကျယ်ဝန်းတယ်၊ အထူးသဖြင့် အဘိဓမ္မာကျမ်းကြီးက အလွန်ကျယ်ဝန်းတယ်။

http://www.dhammadownload.com



"စိတ်အကြောင်းကို လေ့လာခြင်း" ဆိုတဲ့ စိတ်ပိုင်းမှာ စိတ် အကျဉ်း-၈၉ သို့မဟုတ် အကျယ်-၁၂၁ ဘယ်လိုဖြစ်တယ်ဆိုတာကို အပိုင်း-၁ မှာ ဟောပြောပြီးပြီ၊ စိတ် ဖြစ်တိုင်း ဖြစ်တိုင်း ယှဉ်တွဲ ဖြစ်ပေါ်လာတဲ့ စေတသိက်အမျိုးအစား ၅၂-မျိုးနဲ့ စိတ် စေတသိက် ယှဉ်တွဲပုံကို ပြတာက စေတသိက်ပိုင်းလို့ဆိုတယ်။

တစ်ဖန် "ရုပ်အကြောင်းကိုလေ့လာသုံးသပ်ခြင်း" ဟောပြော တာကို ရုပ်ပိုင်းလို့ဆိုတယ်၊ သိသာ မြင်သာအောင်လို့ မြတ်စွာ ဘုရားရဲ့ ခန္ဓဒေသနာကို နမူနာယူပြီးတော့ ဘုန်းကြီးတို့ ရုပ်ပိုင်း ကနေ စ,ပြီး ဟောခဲ့တယ်၊ မြတ်စွာဘုရားက ခန္ဓာငါးပါးကို ဟောတဲ့ အခါမှာ ရူပက္ခန္ဓာကို စ, ဟောပါတယ်။ သို့သော် အဘိဓမ္မတ္ထ သင်္ဂဟကျမ်းကျတော့ စိတ်ပိုင်းကနေ စ,ပြတယ်၊ ဘာကြောင့် စိတ် ပိုင်းက စ,တာတုန်းဆို ဓမ္မသင်္ဂဏီပါဠိတော်မှာ "စိတ္တုပ္ပါဒကဏ္ဍ" မှ စ,လို့ စိတ်ပိုင်းက စ,တာ၊ ခန္ဓာငါးပါးရှုထောင့်က ပြောမယ်ဆိုရင် ရုပ်ပိုင်းပြီးတော့ စေတသိက်, စေတသိက်ပြီးမှ စိတ် - ဒီလို ဟောတာ၊ ပိုပြီးတော့ သိသာ မြင်သာအောင်လို့ ဆိုပြီးတော့ ရုပ် အကြောင်းကို လည်း ဟောပြောပြီးပြီ၊ စိတ်အကြောင်း, စေတသိက် အကြောင်းကို လည်း ဟောပြောပြီးပြီ။

ဒီကနေ့ အဘိဓမ္မာမြတ်ဒေသနာအပိုင်း-၂ မှာ စိတ်ဖြစ်ပုံကို လေ့လာသုံးသပ်ခြင်း ကို ဟောပြောမှာဖြစ်တယ်၊ စိတ်-၈၉ ကို သိရုံနဲ့ မပြီးသေးဘူး၊ စိတ်ဟာ ကိုယ့်ခန္ဓာကိုယ်ထဲမှာ၊ ကိုယ့်သန္တာန် မှာ ရှိနေတာလား? ရှိနေရင် ဘယ်နေရာမှာ ရှိနေတာလဲဆိုတာ applied လုပ်ပြီးတော့ ကြည့်တတ်ဖို့ပေါ့၊ ဒါကြောင့်မို့ စိတ် ရှိနေ တယ်, ရှိမနေဘူး ဆိုတာကို ထင်ရှားအောင် ထိုထိုသုတ္တန် ပါဠိတော်

http://www.dhammadownload.com



တို့ ဝိသုဒ္ဓိမဂ်တို့ အဘိဓမ္မတ္ထသင်္ဂဟကျမ်းတို့ကို အခြေပြုပြီး ဆင်ခြင်သုံးသပ်ကြည့်ရင် စိတ်က ဘယ်လိုဖြစ်လာတယ်ဆိုတာ သိရှိနားလည်နိုင်ပါတယ်၊ ဒါကြောင့်မို့ ဒီကနေ့ည စိတ်ဖြစ်ပုံကို လေ့လာသုံးသပ်ပြပါ့မယ်။

## စိတ်လို့ပြောရင် စေတသိက်လည်း ပါတယ်

လူတိုင်းက စိတ်အကြောင်းတော့ ပြောနေကြတာပဲ၊ စိတ်လို့ ပြောလိုက်လို့ရှိရင် စေတသိက်လည်း ပါတယ်လို့ မှတ်ထားကြပါ၊ ဆိုင်ရာဆိုင်ရာ စေတသိက်တွေပါတယ်ပေါ့၊ ဥပမာ- စက္ခုဝိညာဏ် စိတ်အကြောင်းကို ပြောပြီဆိုရင် သဗ္ဗစိတ္တသာဓာရဏ စေတသိက် ၇-ခုအပါအဝင် အားလုံး ၈-ခုကို ပြောတယ်လို့ မှတ်ရမယ်။

လောဘမူစိတ်လို့ ပြောလိုက်တာနဲ့ တစ်ပြိုင်နက် လောဘမူ စိတ် ၈-ခုထဲက တစ်ခုနဲ့ ဆိုင်ရာဆိုင်ရာ ယှဉ်တွဲပြီးတော့ လာတဲ့ စေတသိက်တွေကို ရည်ညွှန်းပြီး ပြောတယ်လို့ ဒီလိုပဲမှတ်ရမယ်။ မြတ်စွာဘုရားကလည်း စိတ်ကိုပဲရည်ညွှန်းပြီး ဟောလေ့ရှိပါတယ်။ ဒါကြောင့် စိတ်လို့ ဆိုလိုက်တာနဲ့ စိတ်, စေတသိက် နှစ်ခုလို့ အဘိဓမ္မာသင်တဲ့ ပုဂ္ဂိုလ်တွေက နားလည်ထားရမယ်။

အရပ်ထဲမှာ ပြောနေတာလည်း စိတ်လို့ပဲ ပြောနေကြတာပဲ၊ စေတသိက်အကြောင်း ဘယ်သူမှ မပြောကြဘူး၊ အဘိဓမ္မာသင်တဲ့ သူတွေသာပြောတာ၊ "ငါ့စိတ်က ဘယ်လိုနေတယ်, သူ့စိတ်က ဘယ်လိုနေတယ်၊ စိတ်ကောင်းတယ်, စိတ်မကောင်းဘူး၊ စိတ်ဆိုး တယ်, စိတ်မဆိုးဘူး" စသည်ဖြင့် စိတ်အကြောင်း ပြောကြတာ၊ စိတ်ဆိုတာ စေတသိက်တွေနဲ့ ယှဉ်တွဲပြီးဖြစ်တယ်၊ အဲဒီတော့

http://www.dhammadownload.com



စိတ်လို့ပြောလိုက်ရင် စေတသိက်ပါ ပါတယ်ဆိုတာကို နားလည်ရမယ်။

## အရှိတရားနှင့် အဖြစ်တရား

အစပထမ စဉ်းစားကြည့်ဖို့ရာက စိတ်ဟာ အရှိတရားလား, အဖြစ်တရားလား? ဒါကို အရင်ကြည့်ရမယ်၊ အရှိတရား ဆိုတာ သူ့ဟာသူ ရှိတာ၊ အဖြစ်တရားဆိုတာ အကြောင်းတရားပေါ် လာမှ ဖြစ်တာ။

မြတ်စွာဘုရားသခင် ကိုယ်တော်မြတ်က "**အတ္ထိ ဘိက္ခဝေ အဇာတံ**" "ဖြစ်ခြင်းသဘော မရှိတဲ့တရားဟာ ရှိတယ်"၊ ဘာလဲ ဆို- နိဗ္ဗာန်၊ ဒါကြောင့်မို့ နိဗ္ဗာန်ကို အရှိတရားလို့ပြောရင် ရတယ်၊ နိဗ္ဗာန်ကို ဘယ်အကြောင်းက ထုတ်လုပ်တယ်လို့ အကြောင်းတရား ရှာပြီး ပြောစရာ မလိုဘူး၊ နိဗ္ဗာန်ကို ထုတ်လုပ်တဲ့အကြောင်းရယ်လို့ မရှိဘူး၊ သို့သော် နိဗ္ဗာန်ကို ရောက်စေတတ်တဲ့အကြောင်းတော့ ရှိတယ်၊ ဒါနကောင်းမှု လုပ်တယ်၊ သီလ ဆောက်တည်တယ်၊ ကမ္မဋ္ဌာန်း ဘာဝနာ ပွားများအားထုတ်တယ်၊ ဒါတွေက နိဗ္ဗာန်ကို ရောက်စေတဲ့ အကြောင်းတရားတွေပဲ၊ သို့သော် အဲဒီအကြောင်း တရားတွေက နိဗ္ဗာန်ကို ဖန်တီးတဲ့ အကြောင်းတရားတွေ မဟုတ်ဘူး၊ ဒါကြောင့်မို့ နိဗ္ဗာန်သည် အရှိတရား, ထာဝရရှိနေတဲ့ အရှိ တရားပဲ၊ အဲဒါကြောင့်မို့ '**အဇာတ**' အဖြစ်တရား မဟုတ်ဘူး၊ အရှိတရားလို့ ပြောတာ။

ဘာကြောင့်လဲဆိုတော့ မီးငြိမ်းနေတာကိုပဲ ကြည့်ပေါ့၊ ငြိမ်း အေးမှုဆိုတာ မီးမရှိမှုကို ပြောတာ၊ မီးမရှိတဲ့ နေရာတိုင်းကို ငြိမ်း

http://www.dhammadownload.com



အေးတယ်လို့ ပြောလို့ရလား၊ မီးတောက်ပြီးတဲ့နေရာမှာ အဲဒီ မီးတောက်လေး ငြိမ်းသွားမှ အငြိမ်းကို ပြောလို့ရတာ၊ သို့သော် ငြိမ်းတယ်ဆိုတာ မရှိဘူးလားဆိုတော့ ရှိတယ်၊ အမြဲတမ်းရှိတဲ့ အရာ တစ်ခု၊ ငြိမ်းအေးတယ်ဆိုတဲ့ သဘာဝက အမြဲတမ်းရှိတယ်။ သူ့ကို ဘာနဲ့သတ်မှတ်ပြီး ပြောရလဲဆိုရင် တစ်စုံတစ်ခုကို ရည်ညွှန်းပြီး ပြောရတယ်၊ မီးတောက်၏ ငြိမ်းမှုဆိုတဲ့ အငြိမ်းဟာ ဒီနေရာမှာ မီးတောက်ငြိမ်းသွားတာကို ပြောတာ၊ ကိလေသာတို့၏ငြိမ်းမှု ဆိုတာ ကိလေသာ ချုပ်ငြိမ်းမှုကို ပြောတာ၊ သင်္ခါရတို့၏ငြိမ်းမှု ဆိုတာ သင်္ခါရတွေ ငြိမ်းသွားတာကို ပြောတာ။

မရှိဘူးဆိုတာက စဉ်းစားကြည့် - မရှိဘူးဆိုတာ နဂိုကတည်း က မရှိတာ၊ ဆိုပါစို့ - 'ယုန်မှာ ချိုမရှိဘူး, လိပ်မှာ အမွေးမရှိဘူး' ဆိုတာ လောကမှာ မရှိဘူးလို့ သတ်မှတ်ထားတဲ့အရာဟာ မရှိကို မရှိလို့ မရှိတရားလို့ပြောတာ၊ နိဗ္ဗာန်ဟာ အဖြစ်တရားမဟုတ်, အရှိတရား၊ နိဗ္ဗာန်ဟာ ထာဝရရှိနေတဲ့တရား, မရှိတရားမဟုတ်၊ သို့သော် ထာဝရရှိနေတဲ့ အရှိတရားကို အဖြစ်တရားနဲ့ သတ်မှတ်ပြီး တော့ ပြောကြရတယ်၊ ဥပမာ - 'ဒုက္ခ' ဆိုတာ ဖြစ်ပေါ်လာတဲ့ တရား, ထိုဒုက္ခတရားရဲ့ ချုပ်ငြိမ်းမှုကို ဒုက္ခနိရောဓ - နိဗ္ဗာန်လို့ ဒီလိုပြောတာ၊ အဖြစ်တရားနဲ့ သတ်မှတ်ပြီးတော့ အငြိမ်းဓာတ်ကို ဖော်ပြရတယ်၊ နှုတ်မှဆို နားမလည်နိုင်ဘူး၊ နိဗ္ဗာန်ဆိုတာ သိမ်မွေ့ တယ်၊ သိဖို့ခက်တယ်၊ ဒါကြောင့် နိဗ္ဗာန်အကြောင်းပြောပြီး ငြင်းခုံ စရာ မလိုပါဘူး။

တချို့က နိဗ္ဗာန်အကြောင်းကိုပြောပြီး ငြင်းခုံကြတယ်၊ ငြင်းခုံ စရာ မလိုပါဘူး၊ ကိုယ်မှ မရောက်ဘူးဘဲနဲ့ ဘာဖြစ်လို့ ငြင်းနေမလဲ၊

http://www.dhammadownload.com



မြတ်စွာဘုရားက ဓမ္မစကြာမှာ ဟောထားတာပဲ - နိဗ္ဗာန်ဆိုတာ ဒုက္ခနိရောဓ၊ ဒုက္ခဆိုတာ ဘာလဲ? ရုပ်တွေ နာမ်တွေကို ပြောတာ၊ ဒီတော့ ရှင်းနေတာပဲ - ဒုက္ခချုပ်ငြိမ်းသွားတာ နိဗ္ဗာန်၊ ဘာဖြစ်လို့ ချုပ်ငြိမ်းသွားတာတုန်း၊ အကြောင်းပြတ်သွားလို့ ချုပ်ငြိမ်းသွားတာ။

ဆိုပါစို့ - ဖယောင်းတိုင်လေးတစ်တိုင် ထွန်းထားတယ် - ဖယောင်းဆီလည်း ကုန်သွားတယ်၊ မီးစာလေးလည်း ကုန်သွားတယ်၊ မီးတောက်ကလေး ရှိသေးလား၊ သေချာကြည့် - အဲဒီ မီးတောက်လေးဟာ ဘယ်သူ့အပေါ်မှာ မှီနေသလဲဆိုရင် ဖယောင်းဆီနဲ့ မီးစာပေါ်မှာ မှီနေတယ်၊ အဲဒီ ဖယောင်းဆီလေး ကုန်သွားပြီ, မီးစာလည်း မရှိတော့ဘူးဆိုရင် အဲဒီ ဖယောင်းတိုင်မီးဟာ ရပ်တည်နိုင်သေးလား၊ ဒါ ဘာပြောသလဲဆိုရင် မီးတောက်လေးကို ထောက်ပံ့ထားတဲ့ အကြောင်းတရားနှစ်ခုရှိတယ်၊ (လူမသိတဲ့ အကြောင်းတရားတစ်ခု ရှိသေးတယ်၊ လေပေါ့)၊ မီးစာလည်း ရှိရတယ်, ဖယောင်းဆီလည်း ရှိရတယ်၊ အဲဒီ ဖယောင်းတိုင်မီးလေးကို လေလုံထဲမှာ ထည့်လိုက်မယ်, အပေါ်က တစ်ခုခုနဲ့ အုပ်လိုက်မယ်ဆိုရင် ငြိမ်းသွားမှာပဲလေ၊ အဲဒီသဘောကို အသာထားလိုက်ဦး . . . အကြောင်းတွေ ရှိတယ်ဆိုတာ မှတ်ထား၊ အကြောင်းတွေ ရှိနေသမျှ ကာလပတ်လုံး အဲဒီ မီးတောက်လေးဟာ ဆက်ပြီးရှိနေမှာပဲ၊ အကြောင်းမရှိတော့လို့ ချုပ်သွားပြီ ပျက်သွားပြီဆိုရင် မီးတောက်လေးဟာ နောင် ဘယ်အခါမှ ပြန်မလာတဲ့ ချုပ်ငြိမ်းမှုဘက်ကို ရောက်မှာ၊ အဲဒါလိုပဲ ဒုက္ခဆိုတာ မီးတောက်လေးနဲ့ တူတယ်။

http://www.dhammadownload.com



မီးတောက်လေးနဲ့တူတဲ့ ဒုက္ခ ဆိုတာ ဘယ်သူ့ကို ရည်ညွှန်းတာလဲ? ဒီစကားလုံးက အရပ်ထဲမှာပြောတဲ့ စားစရာမရှိလည်း ဒုက္ခ, နေမကောင်းလည်း ဒုက္ခ၊ အဲဒီဒုက္ခကို ပြောတာမဟုတ်ဘူး။ ဒု–ဆိုတာ အားမကိုးလောက်ဘူး၊ ပြီးတော့ ကျေနပ်စရာ မကောင်းလို့ စက်ဆုပ် ရွံ့ရှာဖွယ်ကောင်းတယ်ဆိုတဲ့ အဓိပ္ပါယ်၊ ခ–ဆိုတာ ကိုယ်ထင်တဲ့အတိုင်း ဘာမှမဟုတ်ဘူး၊ အဲဒီ အဓိပ္ပါယ် နှစ်ခုနဲ့ ရည်ညွှန်းပြီးတော့ ပြောတာ၊ ဒု–ဆိုတာ ကုစ္ဆိတ၊ ဝိသုဒ္ဓိမဂ်မှာ ဒီအတိုင်းပဲ ဖွင့်ဆိုထားတယ်၊ **ကုစ္ဆိတ**–ဆိုတာ ကျေနပ်စရာ မကောင်းဘူး, ရွံ့ရှာစရာကောင်းတယ်၊ ခ–ဆိုတာ ထင်တဲ့အတိုင်း ဘာမှရှိတဲ့အရာမဟုတ်ဘူး၊ အဲဒီနှစ်ခု ပေါင်းစပ်ထားတာ။

ဒုက္ခဆိုတဲ့ စကားလုံးလေးက ဘယ်သူ့ကို ရည်ညွှန်းတာလဲ ဆိုရင် ဘုန်းကြီးတို့ရဲ့ သန္တာန်မှာ ဖြစ်နေတဲ့ ရုပ်နဲ့ နာမ် ဒီနှစ်ခုကို ရည်ညွှန်းထားတာ။ အဲဒီ ရုပ်နဲ့ နာမ် နှစ်ခုသည် မီးတောက်လေးနဲ့ အလားသဏ္ဌာန်တူတယ်။ အဲဒီ မီးတောက်လေးကို ဖယောင်းဆီနဲ့ မီးစာကနေပြီးတော့ အားပေးနေသလို ဒီဒုက္ခလေးက ဘယ်အပေါ်မှာ တည်နေတုန်းဆိုရင် ဆိုင်ရာ ဆိုင်ရာ အကြောင်းတရားတွေ အပေါ် တည်နေတယ်။ အဲဒီ အကြောင်းတရားတွေ ကုန်ဆုံးသွားတာနဲ့ တစ်ပြိုင်နက် မီးတောက်လေးဟာ ရပ်တည်ခွင့် မရှိတော့ဘူး၊ ပြောမယ်ဆိုရင် နိဗ္ဗာန်ရဲ့သဘောဟာ အဲဒါမျိုးကိုပြောတာ။

ဘဝကို တွယ်တာတဲ့ ပုဂ္ဂိုလ်တွေကတော့ ကြံဖန်ပြီးတော့ နိဗ္ဗာန်ဟာ ပျော်စရာကောင်းတဲ့ဒေသလို့ ဘဝတဏှာနဲ့ တွေးကြပြောကြတယ်၊ ဘဝတဏှာဆိုတာ ဘဝဆက်လက် ဖြစ်ပေါ်နေတာကို ကျေနပ်နေတာ၊ လူတွေဟာ ဘယ်လောက်ပဲ ဒုက္ခရောက်

http://www.dhammadownload.com



နေနေ ဘဝကိုတွယ်တာတဲ့ တဏှာက ဆက်လက်ရှိနေကြတာပဲ, ဖြစ်ချင်နေကြတာပဲ၊ နိဗ္ဗာန်ကျရင် ဘာမှမဖြစ်တော့ဘူးဆိုရင် ကြောက်သွားကြမှာပဲ၊ ဘာဖြစ်လို့လဲဆို ဖြစ်ချင်နေလို့ ဖြစ်ရတာကို ဒုက္ခလို့မြင်ပြီ, မကောင်းဘူးလို့ မြင်ပြီဆိုရင် ဖြစ်ချင်ပါဦးမလား၊ မဖြစ်ချင်တော့ဘူး၊ သင်္ခါရ ဆိုတဲ့ ဒုက္ခလို့ခေါ် ရတဲ့ ရုပ်တွေ နာမ်တွေ လုံးဝချုပ်ငြိမ်းသွားတာကို နိဗ္ဗာန်လို့ခေါ်တယ်။

အဲဒီနိဗ္ဗာန်ဟာ အရှိတရားလို့ ဒီလိုပြောတယ်၊ ဘာဖြစ်လို့လဲဆို ချုပ်ငြိမ်းမှုဆိုတဲ့ သဘာဝလေး ရှိနေတယ်၊ ဒါကို ပြောတာနော်၊ ချုပ်ငြိမ်းမှုဆိုတဲ့ သဘာဝလေးက လောကမှာ ရှိမြဲရှိနေတယ်၊ အမြဲထာဝရ ရှိနေတယ်၊ ခုနက လုပ်လိုက်လို့ ဖြစ်သွားတဲ့အရာ မဟုတ်ဘူး၊ တစ်စုံတစ်ခု လုပ်ပေးလိုက်လို့ ဖြစ်သွားတဲ့ အရာတစ်ခု မဟုတ်ဘူး၊ ချုပ်ငြိမ်းမှုဆိုတာ ထာဝရရှိနေတဲ့အရာတစ်ခု၊ အဲဒါ နိဗ္ဗာန်သဘောကို တွေးတောဆင်ခြင်ပြီးတော့ ကြည့်ဖို့။

## ရုပ်နဲ့ နာမ်က အဖြစ်တရား

ကောင်းပြီ - နိဗ္ဗာန်ဟာ အရှိတရား၊ အခုပြောတဲ့ စိတ်, စေတသိက်, ရုပ် ဆိုတဲ့ ရုပ်နဲ့ နာမ်က အဖြစ်တရားလို့ ဒီလို ပြောတယ်၊ ဘာဖြစ်လို့ အဖြစ်တရားလို့ ပြောသလဲဆို၊ ကြည့် - ခုနက ဖယောင်းတိုင်မီးလေးကို ဘယ်သူက မွေးဖွားပေးလိုက်လဲ ဆိုရင် အကြမ်းဖျဉ်းပြောမယ်ဆိုရင် မီးခြစ်ဘူးကနေ မွေးဖွားပေး လိုက်တာ၊ မီးခြစ်ဘူးလေး သို့မဟုတ် ဂက်စ်မီးခြစ်ကို ခြစ်လိုက်ရင် မီးတောက်လေး မဖြစ်ဘူးလား၊ အဲဒီ မီးတောက်လေးကို ဖယောင်းတိုင်မှာရှိတဲ့ မီးစာလေးကို ကူးပေးလိုက်တာ၊ ဂက်စ်

http://www.dhammadownload.com



မီးခြစ်မှာ ရှိနေတုန်းက မီးတောက်လေးဟာ ဂက်စ် ဆိုတာရယ်၊ ဘီးလုံးလေးရဲ့သံရယ်၊ အဲဒီ ဘီးလုံးကို ဖိပွတ်မှုကြောင့် အပူဓာတ်ဖြစ်တာရယ်၊ လူတစ်ယောက်ရဲ့ဖိအားရယ် အဲဒီ အကြောင်းသုံးခုပေါင်းစုံမှုကြောင့် မီးတောက်လေး ပေါ်လာတယ်၊ အဲဒီ မီးတောက်လေးကို ဘယ်ဟာတွေက ဆက်ပြီးတော့ ထောက်ပံ့ကူညီနေသလဲ ဆိုရင် ဖယောင်းတိုင်မှာရှိတဲ့မီးစာနဲ့ ဖယောင်းဆီက ဆက်ပြီးတော့ ကူညီနေတယ်၊ အကြောင်းတွေက ထောက်ပံ့နေတာ မဟုတ်လား။

အဲဒီလိုပဲ- လူ့ရဲ့ခန္ဓာကိုယ် ရုပ်နာမ်တရားမှာလည်း ဆိုင်ရာဆိုင်ရာ ဖြစ်စေတတ်တဲ့အကြောင်းရှိသလို ထောက်ပံ့ပေးတတ်တဲ့အကြောင်းလည်း ရှိတယ်၊ အကြောင်းဆိုတာ အမျိုးမျိုးရှိတယ်၊ 'ဇနက' ဆိုတာ ဖြစ်စေတဲ့အကြောင်း၊ အဲဒါကို producing cause လို့ ခေါ်တယ်၊ ဖြစ်စေတဲ့အကြောင်း ထုတ်လုပ်တဲ့အကြောင်း။

ဖယောင်းတိုင်တို့ မီးစာတို့က မီးတောက်လေးကို မွေးဖွားပေးတာ ဟုတ်ရဲ့လား၊ မဟုတ်ဘူးနော်၊ ဆက်လက် ရှင်သန်နေအောင် ထောက်ပံ့ပေးတာသာ ဖြစ်သောကြောင့် သူတို့ကိုကျတော့ supporting cause 'ဥပတ္ထမ္ဘက' လို့ ခေါ်တယ်၊ ထောက်ပံ့ထားတဲ့အကြောင်း၊ လေကလေးကို ပြောမယ်ဆိုရင် အောက်ဆီဂျင်ပေါ့၊ အဲ့လေက supporting cause၊ ထုတ်လုပ်ထားတဲ့အရာကို supporting cause က ထိန်းပေးထားတာ၊ အဲဒီ cause တွေမရှိတော့ဘူးဆိုတာနဲ့ တစ်ပြိုင်နက် ဒီမီးတောက်လေးရဲ့ ရှင်သန်မှုဟာ ရပ်ဆိုင်းသွားတယ်၊ လူ့ဘဝ လူ့ခန္ဓာလည်း ဒီအတိုင်းပဲ၊ producing cause ရှိတယ်၊ supporting cause ရှိတယ်၊ အဲဒီ cause နှစ်ခုရှိတဲ့ အချိန်လေးမှာပဲ ရှိနေတာ။

http://www.dhammadownload.com



အဲဒီ အကြောင်းတရားတွေကို ကြည့်လိုက်ရင် သူတို့ကလည်း မြဲသလားဆိုရင် မမြဲဘူး၊ သူတို့မှ မမြဲဘဲနဲ့ သူတို့ ထောက်ပံ့ပေးထားတဲ့အရာက ဘယ်လိုလုပ် မြဲလို့ရမလဲ။

မြတ်စွာဘုရားက သံယုတ်ပါဠိတော်မှာ ရှင်းရှင်းလေး ဟောထားတယ် - "**အနိစ္စသမ္ဘူတံ**" "မမြဲတဲ့ အကြောင်းတရားက ထုတ်လုပ်လိုက်တဲ့ အကျိုးတရားဟာ" "**ကုတော နိစ္စံ ဘဝိဿတိ**" "ဘယ်လိုလုပ် မြဲနိုင်မှာတုန်း" တဲ့၊ အရပ်ပြောနည်း ပြောထားတာ နော်၊ "**အနိစ္စသမ္ဘူတံ ကုတော နိစ္စံ ဘဝိဿတိ**" "မမြဲတဲ့



http://www.dhammadownload.com



ဖြစ်လာတဲ့တရား ဆိုကတည်းက ဆိုင်ရာ အကြောင်းတရားက ထုတ်လုပ်လိုက်လို့ ဖြစ်ပေါ်လာတာ၊ ဖြစ်လာပြီးတော့လည်း ပျက်စီးသွားရတယ်၊ နောက်အကြောင်းတရားတစ်ခုက ထပ်ပြီးတော့ ထုတ်လုပ်တယ်၊ မပြတ်ထုတ်လုပ်နေတဲ့အတွက် ရပ်တန့်ပြီး မနေဘူး၊ ဆက်ဆက်ပြီး ဖြစ်နေတယ်၊ တစ်ခါထုတ် တစ်ခါ ဖြစ်တယ်၊ နောက်တစ်ခါထုတ် နောက်တစ်ခါဖြစ်တယ်။

ယခုလို စိတ်ဟာ သူ့ဆိုင်ရာဆိုင်ရာ အကြောင်းတွေကြောင့် ဖြစ်တာ၊ စိတ်ဟာ ဘယ်မှာရှိသလဲဆို ဦးနှောက်ထဲမှာရှိတယ်လို့ ပြောလို့ရမလား၊ condition တစ်ခုအနေနဲ့တော့ ပြောလို့ရတာပေါ့၊ နှလုံးသားထဲမှာရှိတယ်လို့ ပြောလို့ရမလား၊ အဘိဓမ္မာသင်ထားတဲ့ ပုဂ္ဂိုလ်တွေက ဟဒယဝတ္ထုကိုမှီပြီး ဖြစ်တယ်ဆိုတော့ ဟဒယ ဝတ္ထုထဲမှာ စိတ်ရှိနေသယောင်ယောင် ဒီလိုထင်ကြတယ်။

တချို့ကျတော့ စိတ်ဟာ ရုပ်ရဲ့အကျိုးဆက်လို့ ဒီလို ယူဆတဲ့ ပုဂ္ဂိုလ်တွေလည်းရှိတယ်၊ အနောက်တိုင်းက ပုဂ္ဂိုလ်တွေက စိတ်ဆိုတာ ဦးနှောက်ကို ခေါ်တာလို့ ယူဆကြတယ်၊ ဦးနှောက်နဲ့ စိတ်က တခြားစီ၊ ဆိုပါစို့ - ဂက်စ်မီးခြစ်လေးထဲမှာ အမာအမာချင်း ပွတ်လို့ရအောင် ဘီးလေးပါတယ်၊ ဂက်စ်ပါတယ်၊ လူတစ်ဦး တစ်ယောက်ရဲ့ အားစိုက်မှု ဖိခြစ်မှုလေးပါတယ်၊ အဲဒီအကြောင်းတွေ ဆုံလိုက်တဲ့အခါမှ မီးတောက်ကလေးဆိုတာ ပေါ်လာတာ၊ အဲဒီလိုပဲ လူ့ရဲ့သန္တာန်မှာ ကံတရားက ဖန်တီးပေးထားတဲ့ possibility ဖြစ်နိုင်ခြေလေးတွေတော့ရှိတယ်၊ သေချာတွေးကြည့် ဂက်စ်မီးခြစ်ထဲမှာ မီးရှိသလားဆိုရင် ဘယ်လိုဖြေမလဲ။

http://www.dhammadownload.com



ဘုန်းကြီးတို့ မနှစ်တုန်းက မေလမှာ ဂျာမနီနားက ဩစတြီးယားနိုင်ငံ၊ မြို့တော် ဗီယင်နာ ရောက်ခဲ့တယ်၊ ဗီယင်နာ တက္ကသိုလ်ကြီးက အကြီးကြီး၊ ဗီယင်နာတက္ကသိုလ် ပါမောက္ခ တစ်ယောက်က ဖိတ်ပြီး "စိတ်အကြောင်း ဟောပေးပါ" ဆိုလို့ နှစ်ရက်သွားဟောတယ်၊ ပြီးတော့ မေးခွန်းတွေမေးတယ်၊ အဲဒီမှာ Psychology နဲ့ ပါမောက္ခ တစ်ယောက်ကို စိတ်နဲ့ ပတ်သက်ပြီး ဘုန်းကြီးက မေးလိုက်တယ် - "စိတ်ဟာ လူရဲ့သန္တာန်မှာ ရှိနေသလား ဘယ်မှာရှိသလဲ" - "ဦးနှောက်ထဲမှာရှိတယ်" လို့ ဖြေတယ်၊ သူတို့က ဦးနှောက်ကိုပဲ စိတ်လို့ယူတာရှိတယ်၊ အဲဒီလိုဖြေတော့ ဘုန်းကြီးက မေးလိုက်တယ်၊ "အဲလိုဆိုရင် ဂီတာထဲမှာ အသံရှိနေသလား၊ piano ထဲမှာ အသံရှိနေလား" ဆို "မရှိဘူး" "ဒါဖြင့် အဲဒီအသံဟာ ဘယ်ကရောက်လာသလဲ" ဆိုရင် တီးခတ်တဲ့ ပုဂ္ဂိုလ်နဲ့ ခုနက ဆိုင်ရာဆိုင်ရာ အကြောင်းတွေ ဆုံလို့ပေါ့၊ ဂက်စ် မီးခြစ်ထဲမှာ မီးရှိနေလား? မရှိဘူး၊ အဲဒီလို မရှိတာမျိုး၊ လူရဲ့ ဦးနှောက်ထဲမှာ စိတ်ရှိနေတာ မဟုတ်ဘူး, နှလုံးသားထဲမှာ စိတ်ရှိနေတာ မဟုတ်ဘူး၊ ဆိုင်ရာဆိုင်ရာ အကြောင်းတရားတွေကြောင့်သာ ဖြစ်ပေါ်လာတယ်လို့ ဗုဒ္ဓဘာသာ တရားတော်အရ ဒီလို နားလည် ရပါတယ်လို့ ထပ်ပြီးတော့ ရှင်းပြရတယ်။

သူတို့ စဉ်းစားသွားတယ်၊ သူတို့တစ်သက်လုံး ဦးနှောက်ကိုပဲ စိတ်လို့ ခေါ်လာတာ၊ အမြင်အာရုံက မျက်စိကနေ ဝင်လာတယ်၊ အဆင့်ဆင့် သတင်းပို့ပြီး လှုပ်ရှားသွားတာဟာ စိတ် ဖြစ်ပေါ်လာ တယ်ပဲလို့ ယူဆကြတယ်။ အတွေးအခေါ် ပြောင်းဖို့ဟာ ရုတ်တရက် အင်မတန်မှ ခက်ခဲတယ်။

http://www.dhammadownload.com



ဗုဒ္ဓတရားတော်အရ ဒီ အာရုံကြောတွေ ဘာတွေ ဆိုတာ possibility စိတ်ဖြစ်ပေါ်စေနိုင်တဲ့ နေရာဌာနမျိုးသာ ဖြစ်တယ်၊ စိတ်မဟုတ်ဘူး၊ ရုပ်တရားမျှသာ ဖြစ်တယ်၊ စိတ်ဆိုတာဟာ ရုပ်တရားကို အမှီပြုပြီးဖြစ်တဲ့ သဘာဝတရားတစ်ခုပဲ၊ ရုပ်ကိုလည်း စိတ် ခေါ်တာမဟုတ်လား၊ တချို့က ရုပ်ကို စိတ်လို့ယူဆကြတယ်၊ စိတ်ဆိုတာ မရှိဘူး၊ ရုပ်ရဲ့လှုပ်ရှားမှုသာ ဖြစ်တယ်လို့ ဒီလိုဆိုတဲ့ ပုဂ္ဂိုလ်က ဆိုတယ်။

အေး- ထားတော့၊ ဘုန်းကြီးတို့ အဘိဓမ္မာကျမ်းအရ စိတ်ဆိုတာဟာ အရှိတရားမဟုတ်ဘူး၊ အဖြစ်တရားလို့ ပြောလို့ရတယ်၊ အရှိတရားဆိုတာ နိဗ္ဗာန်၊ အဖြစ်တရားဆိုတာ အကြောင်းကို ငဲ့နေရတယ်၊ အကြောင်းဆုံစည်းမှ ဖြစ်တယ်၊ ဒါကြောင့်မို့ စိတ်ဟာ အဖြစ်တရား၊ အဖြစ်တရားဖြစ်လို့ မြတ်စွာဘုရားက ဓမ္မသင်္ဂဏီ ပါဠိတော်မှာ **"ဥပ္ပန္နံ ဟောတိ"** ဆိုပြီး အကြောင်းတရားတွေနဲ့ အကျိုးတရားတွေ ဒီလိုဟောတာ၊ **"ဥပ္ပဇ္ဇတိ"** နဲ့ ဟောတာ၊ "ဖြစ်တယ်" လို့ပဲ ဟောထားတာ၊ "ရှိတယ်" လို့ မဟောဘူး။

## စိတ်ဖြစ်ပုံ အကျဉ်း

စိတ်ဟာ ဘယ်လိုဖြစ်ပေါ်လာသလဲ ဆိုတာကို လေ့လာကြည့်ဖို့အတွက် လိုအပ်တဲ့ အခြေခံအချက်ကလေးတွေကို ပထမကြည့်ရမယ်၊ ရုပ်ကိုအမှီပြုပြီး စိတ်ကဖြစ်ပေါ်လာတယ်၊ နေရာတိုင်းမှာတော့ စိတ်ကို မဖြစ်စေနိုင်ဘူးပေါ့၊ ဖြစ်ပေါ်စေနိုင်တဲ့ ရုပ်တွေကို ကြည့်ရမယ်ဆိုရင် - စိတ်ဆိုတာ ဝတ္ထုနဲ့အာရုံ ဆုံလို့ဖြစ်တာ။

http://www.dhammadownload.com



ရှင်းအောင် ပြောရမယ်ဆိုလို့ရှိရင် လက်နဲ့စည်နဲ့ ထိမိသွားလို့ရှိရင် အသံမထွက်လာဘူးလား၊ လက်နဲ့စောင်းကြိုးနဲ့ ထိမိသွားလို့ရှိရင် အသံမထွက်လာဘူးလား၊ ဆုံစည်းမှုဆိုတာ တီးခတ်တာကို ပြောတာ၊ ဆုံစည်းမှုသည် အသံထွက်ပေါ်လာခြင်းရဲ့ အကြောင်းဖြစ်သလိုပဲ လူ့ခန္ဓာကိုယ်မှာရှိတဲ့ ရုပ်တရားတွေနဲ့ သို့မဟုတ် နာမ်တရားနဲ့ ပြင်ပဗဟိဒ္ဓိက အာရုံတွေနဲ့ ဆုံစည်းမှုဟာ စိတ်ဖြစ်ပေါ်ဖို့ အကြောင်းတစ်ခုဖြစ်တယ်၊ စာလိုပြောရရင် ဝတ္ထုနဲ့ အာရုံ၊ ဝတ္ထုဆိုတာ စိတ်ရဲ့ဖြစ်ရာတည်ရာ၊ စိတ်ရဲ့တည်ရာမှီရာလို့ ဒီလိုပြောရမယ်။

ဥပမာ - စောင်းသံဆိုပါတော့ စောင်းသံက ဘာကိုမှီနေလဲဆိုရင် စောင်းကြိုးနဲ့စောင်းအိုးကိုမှီနေတာ၊ စောင်းကြိုးနဲ့စောင်းအိုးသည် စောင်းသံရဲ့ မှီရာဖြစ်တယ်၊ လူရဲ့လက်က စောင်းသံရဲ့မှီရာ ဟုတ်ရဲ့လား၊ လက်ကထွက်တဲ့အသံ မဟုတ်ဘူးနော်၊ စောင်းကြိုးနဲ့ စောင်းအိုးကနေ ထွက်လာတဲ့အသံ၊ ဒါကြောင့်မို့ ဒီအသံလေးဟာ စောင်းကြိုး, စောင်းအိုးကို မှီတယ်၊ လက်ကို မှီတာမဟုတ်ဘူး၊ ထို့အတူပဲ မျက်စိနှစ်လုံးဖွင့်ပြီး ကြည့်လိုက်ရင် အမြင်အာရုံလေးသည် မျက်စိလာပြီးတော့ ထိလိုက်တယ်၊ အာရုံနဲ့ဝတ္ထု ထိခိုက်တာ၊ ဒီ ထိခိုက်မှုလေးဟာ သာမန်ပုဂ္ဂိုလ်တွေ ကြားနိုင်လောက်တဲ့ အနေအထား မရှိဘူး၊ သို့သော် သူ့ရဲ့ စွမ်းအားက စိတ်တစ်ခုကို ဖြစ်ပေါ်စေနိုင်လောက်အောင် ပြင်းထန်တယ်၊ မျက်စိနဲ့ အဆင်းအာရုံနဲ့ ဆုံလိုက်တာဟာ ထိလိုက်တာပဲ။

လူတွေကတော့ ထိလိုက်တယ်လို့မသိလိုက်ဘူးပေါ့၊ ဥပမာ- အသံက နားကိုထိလိုက်တယ်၊ အနံ့က နှာခေါင်းကို ထိလိုက်တယ်၊

http://www.dhammadownload.com



အရသာက လျှာကိုထိလိုက်တယ်၊ ဖောဋ္ဌဗ္ဗာရုံက ခန္ဓာကိုယ်ကို ထိလိုက်တယ်၊ ဒါကတော့ ထိမှန်းသိသာတယ်၊ အဆင်း ရူပါရုံ လေးက မျက်စိကို လာထိတာကျတော့ သိပ်မသိသာဘူး၊ သို့သော် ထိခိုက်မှုစွမ်းအားဟာ ဘယ်လောက်ပြင်းလဲဆိုရင် ထိခိုက်မှုလေးက စိတ်တစ်ခုကို မွေးဖွားစေနိုင်တယ်။

ဒါကြောင့် မြတ်စွာဘုရားက သုတ္တန်ပါဠိတော်တွေမှာ **"စက္ခုံစ ပဋိစ္စ ရူပေစ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ"** "စက္ခုပသာဒရုပ်နဲ့ အဆင်းအာရုံ ဒီနှစ်ခုကိုမှီပြီး စက္ခုဝိညာဏ်စိတ် ဖြစ်ရတယ်" လို့ ဒီလိုဟောတာ၊ ဒီတော့ စက္ခုဝိညာဏ်လို့ခေါ်တဲ့ မြင်သိစိတ်လေး သည် မျက်စိထဲမှာလည်း ရှိနေတာမဟုတ်ဘူး၊ ထို စက္ခုပသာဒရုပ် မျက်စိကိုလာထိတဲ့ ရူပါရုံထဲမှာလည်း ရှိနေတာမဟုတ်ဘူး၊ သူတို့ နှစ်ခုကြားမှာ ရှိနေတာလည်း မဟုတ်ဘူး၊ ဘယ်မှာမှ ရှိနေတာ မဟုတ်ဘူး၊ ဒါကြောင့်မို့ အရှိတရား မဟုတ်ဘူးလို့ပြောတာ။

ဒီထက်ပိုရှင်းအောင် စဉ်းစားကြည့်ပေါ့၊ စောင်းကြိုးလေးကို လက်နဲ့တီးခတ်လို့ စောင်းသံလေး ထွက်လာတယ်၊ အဲဒီ စောင်းသံ လေးဟာ စောင်းကြိုးထဲမှာ ရှိနေသလားလို့ စဉ်းစားကြည့်ပေါ့၊ ထူး မခြားနား သီချင်းနဲ့ ကိုက်အောင်တီးရင် ထူးမခြားနား သီချင်းသံ ထွက်တယ်၊ ဒိပြင် သီချင်းတီးရင် ဒိပြင် သီချင်းသံ ထွက်တယ်၊ ဟုတ်ရဲ့လား၊ ရှိနေတာမဟုတ်ဘူး၊ ဒီတော့ စောင်းကြိုးလေးနဲ့ လက်လေး ထိခိုက်မှုသည် အကြောင်းတစ်ခု ဖြစ်လာတယ်။ စောင်းအိုးထဲ၊ စောင်းကြိုးထဲမှာလည်း ဒီအသံရှိနေတာ မဟုတ်ဘူး၊ တီးခတ်နေတဲ့ လက်ထဲမှာလည်း ဒီအသံ ရှိနေတာမဟုတ်ဘူး၊ လက်နဲ့ကြိုး ကြားထဲမှာလည်း ရှိနေတာမဟုတ်ဘူး၊ ဘယ်မှာမှ

http://www.dhammadownload.com



မရှိဘူးဆိုတာ သေချာတယ်၊ သို့သော် ဘယ်ကရောက်လာတုန်းလို့ မေးရင် အကြောင်းကြောင့် ဖြစ်လာတာ။

အဲဒါကို ဝိသုဒ္ဓိမဂ်မှာ ရှင်းရှင်းလေး ရေးထားတာရှိတယ်။ **"န စက္ခုတော ဇာယရေ ဖဿ ပဉ္စမာ"** "ဖဿလျှင် ငါးခုမြောက်ရှိတဲ့ နာမ်တရားတွေဟာ မျက်လုံးထဲက ထွက်လာတာလည်း မဟုတ်ဘူး"၊ **"န ရူပတော"** "မြင်စရာရူပါရုံက ထွက်လာတာလည်း မဟုတ်ဘူး"၊ **"နော စ ဉဘိန္န မန္တရာ"** "အဲဒီနှစ်ခုကြားက ထွက်လာတာလည်း မဟုတ်ဘူး"၊ **"ဟေတုံ စ ပဋိစ္စ ပ္ပဘဝန္တိ သင်္ခတာ"** "သင်္ခတ တရားတွေဆိုတာ အကြောင်းကနေ စလာတာ" တဲ့၊ အကြောင်းကြောင့် ဖြစ်တယ်လို့ ပြောတာ။

နားလည်အောင်လို့ ဥပမာလေးပါ ရေးထားတယ်- **"ယထာပိ သဒ္ဒေါ ပဟဋ္ဌာယ ကာရိယာ"** စည်တီးလိုက်လို့ ဖြစ်ပေါ်လာတဲ့ အသံလေးလိုပဲ ကဲ နားမလည်စရာ အကြောင်းကို မရှိဘူး။ ဒါကြောင့်မို့ စိတ်ဆိုတာ အဖြစ်တရားလို့ပြောတာ၊ အကြောင်းတရားတွေ ပေါင်းဆုံလို့ ဖြစ်တဲ့တရား၊ အကြောင်းတရားတွေဆုံမှ ဖြစ်တယ်ဆိုတော့ အကြောင်းတရားတွေ မဆုံရင် မဖြစ်ဘူးဆိုတဲ့ အဓိပ္ပါယ် မရဘူးလား။

ပဋိစ္စသမုပ္ပါဒ်ကို မြတ်စွာဘုရားဟောတဲ့အခါ **"ဣမဿ ဥပ္ပါဒါ ဣဒံ ဥပ္ပဇ္ဇတိ"** 'ဒါဖြစ်လို့ ဟိုဟာဖြစ်တာ"၊ "အကြောင်းဖြစ်လို့ အကျိုးဆိုတာဖြစ်တာ"၊ **"ဣမသ္မိံ သတိ ဣဒံ ဟောတိ"** "ဒါရှိနေရင် ဟိုဟာရှိမှာပဲ"၊ ရည်ညွှန်းချက်လေးနဲ့ ဟောတာ၊ ဘုရားက စကားလုံးတိုတိုလေးနဲ့ရှင်းပြတာ၊ ဒါရှိလို့ ဟိုဟာရှိနေတာ၊ ဒါဖြစ်လို့ ဟိုဟာ ဖြစ်နေတာ၊ ဟိုဟာမရှိရင် ဒီဟာလည်း

http://www.dhammadownload.com



မရှိတော့ဘူး၊ ဟိုဟာငြိမ်းရင် ဒီဟာလည်း ငြိမ်းသွားမှာပဲတဲ့၊ ပဋိစ္စသမုပ္ပါဒ်ကို ဟောဒီ စာပိုဒ် ၄-ကြောင်းနဲ့ မြတ်စွာဘုရားက ဟောထားတာ။

အဲဒီတော့ သဘာဝတရားတွေက အလွန်ရှင်းရှင်းလင်းလင်း ရှိသော်လည်းပဲ လူတွေရဲ့အသိဉာဏ်က သဘာဝတရားကို ထိုးထွင်းပြီးမြင်ဖို့ တော်တော်ခက်တယ်၊ **'ဒုဒ္ဒသတ္တာ'** မြင်နိုင်ခဲတယ်၊ မြင်နိုင်ခဲသည့်အတွက် **'ဂမ္ဘီရ'**– နက်တယ်လို့ ပြောတာ၊ သာမန် အတွေး၊ သာမန်အသိဉာဏ်နဲ့ မသိနိုင်ဘူးတဲ့။

ဒါကြောင့်မို့ စိတ်ဆိုတဲ့တရားက အဖြစ်တရားပဲ, အရှိတရား မဟုတ်ဘူး၊ ဒါဖြင့် ဘယ်ပုံဖြစ်သလဲလို့ မေးလို့ရှိရင် အာရုံနဲ့ ဝတ္ထု ဆုံစည်းထိခိုက်လို့ ဖြစ်ပေါ်လာတာ၊ ဒါ အဖြေအကျဉ်းလေးပေါ့ နော်၊ အာရုံနဲ့ဝတ္ထု ဆုံမိလို့ ဖြစ်တာတဲ့။

## စိတ်ရဲ့မှီရာ ဝတ္ထုရုပ်၆-မျိုး

ဒီနေရာမှာ "ဝတ္ထု" ဆိုတာ စိတ်ရဲ့တည်ရာမှီရာ ရုပ်သဘာဝ တရားတွေကိုခေါ်ပါတယ်၊ ခုနတုန်းက စောင်းသံလေးဟာ ဘယ်က လာတုန်းဆို စောင်းကြိုး, စောင်းအိုးက လာတာဆိုတော့ စောင်းအိုး စောင်းကြိုးသည် စောင်းသံရဲ့ တည်ရာဖြစ်တယ်၊ စည်သည် စည်သံ ရဲ့ တည်ရာဖြစ်တယ်။

ဒီလိုပဲ စိတ်ရဲ့တည်ရာ ဝတ္ထုရုပ်ဟာ ၆-မျိုး ရှိတယ်၊ ကိုယ့် ခန္ဓာကိုယ်ကို ကြည့်လိုက်ရင် မှတ်ဖို့လွယ်ပါတယ်၊ အရပ်ခေါ်နဲ့ပဲ ပြောလိုက်ပေါ့၊ မျက်စိ, နား, နှာခေါင်း, လျှာ, ကိုယ်နဲ့ "ဟဒယဝတ္ထု" ဆိုပြီး ဝတ္ထုရုပ် ၆-ပါးလို့ ခေါ်တယ်။ စက္ခုဝတ္ထု, သောတဝတ္ထု,

http://www.dhammadownload.com



ယာနဝတ္ထု, ဇိဝှါဝတ္ထု, ကာယဝတ္ထု, ဟဒယဝတ္ထု - ဒါ စိတ်ရဲ့ မှီရာတည်ရာ ဝတ္ထုရုပ် ၆-ပါးလို့ ခေါ်တယ်၊ ရုပ်ကိုမှီပြီး စိတ်ဖြစ်တယ်ဆိုတဲ့သဘောကို ပြောတာ။

စိတ်နဲ့ရုပ်ဟာ အပြန်အလှန်အကျိုးပြုလျက်ရှိတယ်၊ သို့သော် ရုပ်ကိုမမှီဘဲနဲ့ ဖြစ်နိုင်တဲ့စိတ်တွေလည်း ရှိသေးတယ်၊ လူ့ပြည်မှာတော့ မရှိဘူး၊ ရုပ်မဲ့ဘုံ စိတ်ချည်းသက်သက်ဖြစ်တဲ့ဘုံ၊ အရူပ ၄-ဘုံမှာဆိုရင် မှီရာဝတ္ထုရုပ်မရှိဘဲ ဖြစ်တယ်။

ဒါကြောင့် စေတသိက်ပိုင်း အစနားမှာ "သမ္ပယုတ္တ" - ယှဉ်တယ်ဆိုတာ ရှုထောင့် ၄-ခုကနေ ပြောထားတာ၊ ယှဉ်တယ်ဆိုတဲ့ ရှုထောင့် ၄-ခုက (၁) ဖြစ်ရာဌာနဆိုတဲ့ မှီရာဝတ္ထုရုပ်လည်း တူရမယ်၊ (၂) အာရုံလည်း တူရမယ်၊ (၃) တစ်ပြိုင်နက် ဖြစ်ရမယ်၊ (၄) တစ်ပြိုင်နက် ချုပ်ရမယ်၊ ဟောဒီ ၄-ခုတူမှ တစ်ခုတည်းလို့ ပြောရမယ်၊ တစ်ခုက တစ်နေရာကပေါ်တယ်, အာရုံကလည်း တစ်နေရာဆီကို သွားနေတယ်ဆိုရင် မဟုတ်ဘူး၊ တစ်ခုတည်းလို့ ပြောလို့မရဘူး၊

တစ်ခုတည်းဆိုပေမယ့် တကယ်တော့ တစ်ခုတည်း မဟုတ်ဘူး၊ associated ဖြစ်သည့်အတွက်ကြောင့် တစ်ခုတည်းလို့ ထင်နေရတာ၊ တစ်ခုတည်းလို့ထင်အောင် စုစည်းထားတာ "**ဃန**" (အစုအခဲ) လို့ ခေါ်တယ်။ တကယ်တော့ တစ်ခုတည်း မဟုတ်ဘူး။

ဆိုပါစို့- စက္ခုဝိညာဏ်စိတ်ဖြစ်လာရင် သဗ္ဗစိတ္တသာဓာရဏ စေတသိက် ၇-ခု ဆိုတာ အတူဖြစ်တယ်၊ စက္ခုဝိညာဏ်နဲ့ သဗ္ဗစိတ္တသာဓာရဏစေတသိက် ၇-ခုတို့ဟာ မှီရာဝတ္ထုရုပ်လည်း တူတယ်၊ အာရုံလည်းတူတယ်၊ ဖြစ်တဲ့အချိန်ပိုင်းလည်းတူ၊ ပျက်တဲ့

http://www.dhammadownload.com



အချိန်ပိုင်းလည်း တူတယ်ဆိုတော့ as one တစ်ခုတည်းလို ဖြစ်နေတာ၊ ကွဲပြားခြားနားမှုမရှိဘူး၊ လူတွေရဲ့စိတ်ထဲမှာ တစ်ခုတည်းလို့ပဲ မြင်တော့တာ၊ တကယ်တော့ တစ်ခုတည်းမဟုတ်ဘူး၊ ၈-ခု၊ စိတ်ကလေးက-၁, စေတသိက်က-၇၊ ပေါင်း ၈-ခု၊ unity of eight ရှစ်ခုကိုတစ်ခု ဖွဲ့စည်းထားတာ၊ ခုနက ပြောသလို ဖြစ်လာတဲ့နေရာကလည်း အတူတူပဲ၊ ပျော်မွေ့တဲ့နေရာကလည်း အတူတူပဲ၊ ဖြစ်တဲ့အချိန်ပိုင်းကလည်း အတူတူပဲ၊ ပျက်တဲ့ အချိန်ပိုင်းကလည်း အတူတူပဲ၊ တစ်ခုကဲ့သို့ ဖြစ်သွားတာ၊ အဲဒါကို association ခေါ်တယ်။ **သမ္ပယုတ္တပစ္စယော**ဆိုတာ အဲဒီပုံစံနဲ့နေတာကိုပြောတာ။

စိတ်အကြောင်းကိုလေ့လာတော့မယ်ဆိုရင် ဝတ္ထုရုပ် ၆-ပါးကို သိရမယ်၊ အဲဒီဝတ္ထုရုပ်ကို ခန္ဓာကိုယ်ထဲမှာ ရှာကြည့်လိုက်မယ်ဆိုရင် စက္ခုပသာဒရုပ်လို့ ခေါ်တဲ့ စက္ခုဝတ္ထု၊ သောတပသာဒ ရုပ်လို့ခေါ်တဲ့ သောတဝတ္ထု၊ ဃာနပသာဒရုပ်လို့ ခေါ်တဲ့ ဃာနဝတ္ထု၊ ဇိဝှါပသာဒရုပ်လို့ ခေါ်တဲ့ ဇိဝှါဝတ္ထု၊ ကာယပသာဒရုပ်လို့ ခေါ်တဲ့ ကာယဝတ္ထု၊ ကျန်တဲ့စိတ်တွေရဲ့မှီရာ ဟဒယဝတ္ထုလို့ ဝတ္ထုရုပ် ၆-ပါးရှိတယ်၊ အဲဒီဝတ္ထုရုပ် ၆-ပါးမှာ အာရုံတွေ လာပြီးပေါ်တာဟာ စိတ်ဖြစ်ခြင်းရဲ့ အကြောင်းပဲ။

အဲဒါကို ဗုံ ၆-လုံးလို သဘောထားကြည့်မယ်ဆိုရင် ဗုံ ၆-လုံးကို တုတ်လေး ၆-ချောင်းနဲ့ တီးရင် အသံထွက်လာတယ်၊ သူ့ဟာသူ ဒီအတိုင်းထားလို့ရှိရင် အသံထွက်ပါ့မလား၊ မထွက်ဘူး၊ အခု သာသာတီးရင် အသံတိုးတိုးထွက်မယ်, ပြင်းပြင်းတီးရင် အသံကျယ်ကျယ် ထွက်မယ်၊ ဗုံနဲ့တုတ်နဲ့ ထိမှပဲ အသံထွက်တယ်၊ စိတ်

http://www.dhammadownload.com



ဆိုတာ ဒီလိုပဲ၊ အာရုံနဲ့ဝတ္ထု ဆုံစည်းသည့်အတွက်ကြောင့် စိတ်ကလေး ဖြစ်လာရတယ်။

ဥပမာ- လျှပ်စစ်မီးလင်းဖို့ generator တစ်ခု မောင်းထားမယ်ဆိုရင် generator က လည်ပတ်နေတဲ့နှုန်းတွေနဲ့ ထိနေလို့ မီးလေးလင်းနေတာ မဟုတ်လား၊ အဲဒီ ထိမှု ရပ်တာနဲ့တစ်ပြိုင်နက်အမှောင်ဖြစ်သွားမှာ၊ အဲဒီလို အဆက်မပြတ် ထုတ်လုပ်နေလို့ လူတွေရဲ့ စိတ်ဟာမှာ တစ်ခုတည်းလို တည်မြဲနေတဲ့ အရာကြီးကို အမြဲရှိနေတဲ့တရားလို့ ထင်ရတာ၊ စိတ်ကို လည်ပတ်နေတဲ့နှုန်းနဲ့ ထုတ်နေရတာ မဟုတ်လား၊ ရပ်နေတာ မဟုတ်ဘူး၊ ပြေးနေတာ၊ ထုတ်နေတဲ့ အကြောင်းတရားက ပြေးနေသလို၊ အကျိုးတရားကလည်း ပြေးလိုက်နေတာ၊ ပေါ်နေတာ။

အဲဒီမှာ ဝတ္ထုရုပ် ၆-ပါးမှာ - စက္ခုဝတ္ထုဆိုတာ စက္ခုပသာဒရုပ်၊ သောတဝတ္ထုဆိုတာ သောတပသာဒရုပ်၊ ဃာတဝတ္ထုဆိုတာ ဃာနပသာဒရုပ်၊ ဇိဝှါဝတ္ထုဆိုတာ ဇိဝှါပသာဒရုပ်၊ ခန္ဓာကိုယ်မှာ ဘယ်နေရာထိထိ သိတဲ့နေရာမှာ ကာယပသာဒရုပ်၊ ကျန်တဲ့ စိတ်ရဲ့ တည်ရာဟာ ဟဒယဝတ္ထုရုပ်။

ဟဒယဝတ္ထုရုပ် အကြောင်းကို ဘုန်းကြီးတို့ အဘိဓမ္မာမြတ်ဒေသနာ အပိုင်း-၁ ရုပ်အကြောင်းကို လေ့လာသုံးသပ်ခြင်း အပိုင်းမှာ ပြောပြီးဖြစ်တယ်၊ ဟဒယဝတ္ထုဆိုတာ အခြားစိတ်တွေက မှီပြီး ဖြစ်တဲ့နေရာ၊ ဝမ်းသာ ဝမ်းနည်းတယ်ဆိုတာ နှလုံးသားမှာ ထင်ရှားတယ်၊ စဉ်းစားတွေးခေါ်တယ်ဆိုရင် ဦးနှောက်မှာ ထင်ရှားတယ်၊ အကြောင်းအကျိုးအနေနဲ့ တစ်နေရာ ဆက်စပ်ပြီး ဖြစ်တယ်လို့ မှတ်ရမယ်။

http://www.dhammadownload.com



မြတ်စွာဘုရားကိုယ်တိုင်ကလည်း နှလုံးသားကို ရည်ညွှန်းပြီး ပြောခဲ့တာ မဟုတ်ဘူး၊ တချို့အဘိဓမ္မာဆရာတွေကလည်း ဟဒယဝတ္ထု ဆိုတာ heart organ ကို ပြောတာ မဟုတ်ဘူး၊ စိတ်ရဲ့ မှီရာဝတ္ထုလို့ ဆိုလိုတာလို့ ရေးကြတယ်၊ သို့သော် အဘိဓမ္မာကျမ်းဂန်တော်တော်များများဟာ ဟဒယဝတ္ထုသည် နှလုံးသားထဲမှာရှိတယ်၊ နှလုံးသားထဲမှာရှိတဲ့ လည်ပတ်နေတဲ့ သွေးထဲမှာ ရှိတယ်လို့ ပြောတဲ့သဘောပဲ၊ နှလုံးသားထဲ သွေးရောက်တဲ့အချိန်မှာ စိတ်ရဲ့ တည်ရာမှီရာ ဖြစ်တယ်ဆိုတဲ့ အဓိပ္ပါယ်။

အဲဒီတော့ ထား၊ အဲဒီဝတ္ထုရုပ် ၆-ပါးကို မှီပြီး စိတ်လေးတွေ ပေါ်တယ်၊ စည်ကို အမှီပြုပြီး စည်သံပေါ်တယ်၊ စောင်းအိုးနဲ့ စောင်းကြိုးကို အမှီပြုပြီး စောင်းသံပေါ်တယ်၊ မီးခြစ်ဘူးကို အမှီပြုပြီး မီးတောက်ပေါ်လာတယ်၊ အဲဒီသဘောပဲ။

သို့သော် ဟောဒီဝတ္ထုရုပ် ၆-ပါးရှိရုံနဲ့ စိတ်ဟာ ပေါ်ပြီလား ဆိုတော့ မပေါ်သေးဘူး၊ စည်ရှိနေရုံနဲ့ အသံထွက်ပြီလား၊ မထွက်သေးဘူး၊ စည်တီးတဲ့ တုတ်ကလေး လာရဦးမယ်၊ စည်တီးတဲ့တုတ်ဆိုတာ အခု ဒီမှာကျတော့ အာရုံ ၆-ပါးလို့ ပြောမယ်၊

## အာရုံ ၆-ပါး

အာရုံဆိုတဲ့ စကားက ပါဠိသက်ဝေါဟာရပေါ့၊ ပါဠိက **'အာရမ္မဏ'**၊ **'အာ'** ဆိုတာ လာရောက်ပြီး၊ **'ရမ္မဏ'** ပျော်မွေ့တယ် ဆိုတဲ့ အဓိပ္ပါယ်၊ ပျော်မွေ့နေကြတယ်၊ အာရုံရှိရာကိုသွားပြီး ပျော်မွေ့နေတယ်၊ သို့သော်လည်း ဒါက တင်စားပြီးပြောတဲ့ စကားလုံးမျိုးတွေ metaphorical term လို့ ခေါ်တယ်၊ အရပ်ထဲမှာ

http://www.dhammadownload.com



လည်း ဒီလိုပဲ ပြောတာပဲ၊ တကယ်တော့ စိတ်က အာရုံဘက်ကို ထွက်သွားပြီး ပျော်မွေ့နေတာ မဟုတ်ဘူး၊ စိတ်က အာရုံကို တွေးနေတာဟာ ပျော်နေတာပဲ၊ ကောင်းတဲ့အာရုံပဲ ဖြစ်ဖြစ်၊ မကောင်းတဲ့အာရုံပဲဖြစ်ဖြစ် အာရုံဆီ စိတ်ရောက်နေတာကို ပြောတာ။

ဆိုပါစို့- လူတစ်ယောက်ဟာ တစ်ခုခုကို မြင်ပြီးရင် စိတ်က အဲဒီမြင်ထားတဲ့ အာရုံဆီ ရောက်မနေဘူးလား၊ အသံလေးတစ်သံ ကြားလိုက်လို့ရှိရင် ကြားလိုက်တဲ့အသံပေါ် အတွေးတွေ ရောက် မနေဘူးလား၊ အဲဒါကို "**အာရမ္မဏ ရမတိ ဇော္ဇာတိ အာရမ္မဏံ**" "စိတ်ကလေးလာရောက်ပြီး ပျော်မွေ့စရာ၊ လာရောက်ပြီး ကျက်စား စရာ" ဆိုတဲ့ အဓိပ္ပါယ်နဲ့ ဖွင့်ဆိုတာ။

တကယ် စိတ်က ထွက်သွားပြီး အာရုံဆီ သွားနေတာတော့ မဟုတ်ဘူးပေါ့၊ သို့သော် စိတ်နဲ့ အာရုံက တွေ့မနေဘူးလား၊ မျက်စိနဲ့ အဆင်းအာရုံလေး ဆုံလိုက်တာနဲ့ တစ်ပြိုင်နက် စိတ် ကလေးက ပေါ်လာတယ်၊ အဲဒီစိတ်ကလေး ဘယ်သူနဲ့ အလုပ် လုပ်နေလဲဆို မျက်စိနဲ့ အလုပ်လုပ်နေတာ မဟုတ်ဘူး၊ မျက်စိ ပေါ်မှာ ထင်လာတဲ့ အာရုံနဲ့အလုပ်လုပ်တာ၊ အဲဒါကြောင့် သူ့ကို '**အာရမ္မဏ ရမတိ ဇော္ဇ**' လို့ပြောတာ၊ အာရုံပေါ်မှာ သွားပျော်တာ၊ မျက်စိပေါ်မှာပျော်တာ မဟုတ်ဘူး။

နားက အသံလေးကြားလို့ရှိရင်လည်း အသံပေါ်မှာ သွားပျော် တာလား? နားပေါ်မှာ သွားပျော်တာလား? အသံပေါ်မှာ သွားပျော် တာ၊ နှာခေါင်းက အနံ့လေး ရလို့ရှိရင်လည်း နှာခေါင်းပေါ်မှာ သွားပျော်တာလား? အနံ့ပေါ်မှာ သွားပျော်တာ၊ အာရုံပေါ်မှာ

http://www.dhammadownload.com



သွားပျော်နေတယ်ဆိုတာ မထင်ရှားဘူးလား၊ လျှာက အရသာနဲ့ တွေ့ထိလာလို့ရှိရင် အရသာပေါ်မှာ စိတ်ကလေးကသွားတယ်- ခါးရင် ခါးတယ်, ချိုရင် ချိုတယ် စသည်ဖြင့် အရသာပေါ်မှာ သွားပျော်တာ၊ လူကို လာထိလို့ရှိရင် အေးရင် အေးတယ်, ပူရင် ပူတယ်, အတွေ့အထိကောင်းရင် ကောင်းတယ်, မကောင်းရင် မကောင်းဘူး, နူးရင် နူးတယ်၊ အာရုံပေါ်မှာပဲ သွားပျော်တာ၊ စိတ်ကူးလိုက်ပြီ ဆိုရင်လည်း အဲဒါတွေကို အခြေခံပြီးတော့ ကူးထားတဲ့ စိတ်ကူးတွေပဲ၊ စိတ်ဟာ စိတ်ထဲမှာပေါ်လာတဲ့ အာရုံတွေမှာပဲ သွားပျော်နေတာ မဟုတ်လား။

ဒါကြောင့် အာရမ္မဏဆိုတဲ့ စကားလုံးဟာ **'အာ'** လာရောက်ပြီး, **'ရမ္မဏ'** ပျော်မွေ့စရာ၊ ဘယ်သူတွေလာပြီး ပျော်နေတာတုန်းဆို စိတ်တွေလာပြီး ပျော်နေတာ၊ **'အာရမ္မဏ'** 'အာရုံ' ဆိုတာ စိတ်ရဲ့ပျော်မွေ့ရာလို့ အဓိပ္ပါယ်ရတယ်။

နောက်တစ်ခုက **'အာလမ္ဗဏ'** ဆိုတဲ့ စကားလုံးနဲ့ ရေးတာလည်း ရှိသေးတယ်၊ အဲဒါကျတော့ 'ရ' မဟုတ်ဘူး 'လ' နဲ့၊ အသုံးတော့ နည်းပါတယ်၊ 'အာလမ္ဗဏ'- ဆိုတာ ဆွဲကိုင်စရာ၊ အာရမ္မဏပစ္စယောကို ဖွင့်တဲ့အခါကျတော့ စိတ်ကလေးက သူ့ဟာသူ မဖြစ်နိုင်ဘူး၊ အာရုံလေးတစ်ခုနဲ့ တွေ့တဲ့အခါ အာရုံလေးကို မှီပြီးတော့ စိတ်အတွေးတွေပေါ်တာ ဖြစ်သောကြောင့် အားမရှိတဲ့လူသည် ကြိုးတန်းလေးကိုင်ပြီး လမ်းလျှောက်ရသလို စိတ်ကလေးဟာလည်းပဲ အဲဒီအာရုံပေါ်မှာ မှီပြီးတော့ လမ်းလျှောက်တယ်လို့ဆိုတဲ့ အဓိပ္ပါယ်နဲ့ **"အာလမ္ဗဏ"**လို့ သုံးတယ်။ ဘာပဲဖြစ်ဖြစ် စိတ်ကလေးရဲ့ ဆွဲကိုင်မှီတွယ်ရာလို့ အဓိပ္ပါယ်ပြောလို့ရတယ်။

http://www.dhammadownload.com



ကိုယ့်စိတ်ကလေးကို ဆင်ခြင်သုံးသပ်ကြည့်ပေါ့။ စိတ်ကလေးက ပေါ်လာလို့ရှိရင် မျက်စိကမြင်ရင် အဆင်းအာရုံပေါ်မှာသွားပြီး ပျော်နေတာလား? အဲဒီအပေါ်မှာ စိတ်ကလေးက မှီနေတာလား? နားက အသံကြားရင် ကြားတဲ့အသံပေါ်မှာ ပျော်နေတာလား? ကြားတဲ့အသံပေါ်မှာ မှီနေတာလား?၊ သေချာစဉ်းစားကြည့်လိုက်လို့ရှိရင် သဘာဝတရားဟာ မြင်သာ ထင်သာရှိတယ်။ အဲဒီလို စဉ်းစားတာကို contemplation အနုပဿနာလို့ ခေါ်တယ်၊ အသိဉာဏ်နဲ့ ဆင်ခြင်စဉ်းစားတာ။ လက်တွေ့နဲ့ ဆင်ခြင်စဉ်းစားလိုက်လို့ရှိရင် ထင်ထင်ရှားရှား သိလာမယ်နော်၊ ဒါကို applied လုပ်တယ် ခေါ်တာပေါ့။

## ဝတ္ထုနဲ့ အာရုံဆုံခြင်း

ဝတ္ထုနဲ့ အာရုံ ဆုံလိုက်တာနဲ့ တစ်ပြိုင်နက် စိတ်ကလေးတွေ ပေါ်လာတယ်။ ဒါက အဓိကအကြောင်းတစ်ခုကိုပြောတာ၊ ဒီပြင် အကြောင်းတွေလည်း ရှိသေးတယ်၊ အာရုံနဲ့ ဝတ္ထု ဆုံစည်းခြင်းသည် ဒါ common condition, common cause အားလုံးနဲ့ ဆိုင်တဲ့ အကြောင်းအရာတစ်ခု။

အဲဒီတော့ ဘယ်စိတ်တွေ ဘယ်လိုပေါ်လာလဲ ဆိုတာကြည့်၊ ဥပမာ - မျက်စိနဲ့ မြင်စရာအာရုံလေးနဲ့ ဆုံလိုက်ပြီ ဆိုလို့ရှိရင် **ပဉ္စဒွါရာဝဇ္ဇန်း** ကစပြီး မြင်သိစိတ်တွေ ဖြစ်သွားတယ်၊ အမြင်အာရုံပေါ်မှာ ဖြစ်တဲ့စိတ်ကို စက္ခုဝိညာဏ်စိတ်လို့ ပြောတာ၊ သို့သော် အမြင်အာရုံပေါ်မှာ အလုပ်လုပ်တဲ့စိတ်က စက္ခုဝိညာဏ်စိတ် တစ်ခုတည်း မဟုတ်ဘူး၊ စက္ခုဝိညာဏဝီထိစိတ်တွေ အားလုံးဟာ

http://www.dhammadownload.com



အမြင်အာရုံပေါ်မှာ အလုပ်လုပ်တယ်၊ နားလည်အောင် ပြောရမယ် ဆိုရင် မျက်စိကို အမြင်အာရုံလေး လာဆုံလိုက်တာနဲ့ တစ်ပြိုင်နက် ထိုပေါ်လာတဲ့ အာရုံလေးကို တံခါးဖွင့်ပေးတဲ့စိတ်က **ပဥ္စဒွါရာဝဇ္ဇန်း စိတ်** attention လုပ်လိုက်တာ၊ Attention လုပ်ပြီးရင် ပျောက်သွားပြီ သူ့တာဝန် ပြီးသွားပြီ။

စိတ်တွေက အံ့ဩစရာတော့ ကောင်းတယ်၊ စိတ်တစ်ခုနဲ့ တစ်ခု ပျက်သွားတာ မသိလိုက်ဘူး၊ ပဥ္စဒွါရာဝဇ္ဇန်းစိတ်ဆိုတာ မျက်စိကို အဆင်းအာရုံလေး လာပြီးထိလိုက်တာနဲ့ တစ်ပြိုင်နက် ဖျတ်ကနဲဆို တံခါးဖွင့်ပေးလိုက်တာ၊ attention လုပ်လိုက်တာ၊ အဲဒီလို ဖွင့်ပေးလိုက်မှ **စက္ခုဝိညာဏ်စိတ်**က မြင်လိုက်တာ၊ မြင်ပြီး စက္ခုဝိညာဏ်စိတ်က ပျက်သွားတယ်၊ နောက် **သမ္ပဋိစ္ဆိုင်းစိတ်**ကနေ အာရုံ လက်ခံလိုက်တယ်၊ ခံယူလိုက်တယ်၊ ခံယူပြီးပျက်သွားတယ်၊ နောက် **သန္တီရဏစိတ်** က စုံစမ်းလိုက်တယ်၊ စုံစမ်းပြီး ပျက်သွား တယ်၊ **ဝုဋ္ဌောစိတ်** က အာရုံကို ပိုင်းခြား ဆုံးဖြတ်လိုက်တယ်၊ ဆုံးဖြတ်ပြီးတာနဲ့ ပျက်သွားတယ်။

အဲဒီအာရုံရဲ့ အရသာပေါ်မှာ တွေးပြီးသိနိုင်တာက **ဇောစိတ်** ဖြစ်တယ်၊ "ဇော" တောင်မှ ပထမအကြိမ်ဖြစ်တဲ့ ဇောတော့ မဟုတ်သေးဘူး၊ မနောဒွါရမှာ ဆက်တိုက်လိုက်လာတဲ့ ဝီထိစိတ် တွေနဲ့မှ သိတာ၊ ပဥ္စဒွါရဝီထိကတော့ intialize လုပ်တာပဲရှိတယ်၊ ဘယ်လို နားလည်ရတုန်းဆို လျှပ်စစ်မီးမရှိတဲ့ နေရာတွေမှာ အင်ဂျင်စက် နှိုးရတယ် မဟုတ်လား၊ အင်ဂျင်စက် နှိုးလိုက်တဲ့အခါ generator လေးဟာ တစ်ပတ်ပြီးတစ်ပတ် အပတ်ပေါင်းများစွာ လည်ပြီးမှ မီးပွင့်လာတာ။

http://www.dhammadownload.com



အဲဒါလိုပဲ စိတ်လေး တစ်လုံးနှစ်လုံးဖြစ်ရုံနဲ့ အာရုံကို မသိနိုင်ဘူး၊ repeatedly အကြိမ်ကြိမ်ဖြစ်တော့မှ သိတာ။ အဲဒါကြောင့်မို့ စိတ်တွေက အများကြီးဖြစ်ရတာ၊ သိပ်လည်းမြန်တယ်၊ တစ်ခုတည်းလို့ ထင်ရလောက်အောင်ကို မြန်တယ်။ ကလေးငယ်တွေ မီးစကို ကိုင်ပြီး မြန်မြန်ရမ်းတဲ့အခါ ဘေးက ကြည့်တဲ့လူက မီးဝိုင်းကြီးလို့ ထင်ရတယ်၊ တကယ်တော့ မီးဝိုင်းကြီးမဟုတ်ဘူး၊ အချို့နေရာတွေမှာ လျှပ်စစ်မီးကို စက်ဘီးသဏ္ဌာန်မျိုးဆင်ထားတာရှိတယ်၊ သွားနေတယ်လို့ ထင်ရတယ်၊ မဟုတ်ဘူး၊ တစ်ခုပြီးတစ်ခု တောက်နေတော့ လည်နေတယ်လို့ ထင်ရတယ်၊ တကယ်တော့ လည်နေတာ မဟုတ်ဘူး၊ အဲဒါမျိုးလို illusion ဖြစ်သွားလောက်အောင် လျင်မြန်တဲ့နှုန်းရှိတယ်။

ဒီတော့ တံခါးဖွင့်ပေးတဲ့ attention စိတ် ပြီးသွားရင် မြင်တဲ့စိတ်၊ မြင်တဲ့စိတ်ပြီးရင် လက်ခံတဲ့စိတ်၊ လက်ခံတဲ့စိတ်ပြီးရင် စူးစမ်းတဲ့စိတ်၊ စူးစမ်းတဲ့စိတ်ပြီးရင် သတ်မှတ်တဲ့စိတ်၊ သတ်မှတ်တဲ့စိတ် ပြီးသွားတာနဲ့ တစ်ပြိုင်နက် အာရုံကို ခံစားတဲ့ ဇောစိတ်ဖြစ်တယ်၊ ဇောစိတ်တွေက ၇-ကြိမ်လောက် repeatedly ထပ်ဖြစ်ပြီးတဲ့နောက်မှာ "တဒါရုံ" လို့ ခေါ်တဲ့ အာရုံကို စမြုံ့ပြန်တဲ့ စိတ်မျိုးပေါ့၊ အဲဒါကို ဆက်ခံတဲ့ စိတ်မျိုးပေါ့ retentive အင်္ဂလိပ်လို၊ အချို့ကတော့ registration လို့ ပြန်တယ်၊ ဒီမှာတော့ retentive ဆိုတဲ့ အဓိပ္ပါယ်က ပိုပြီးနီးစပ်တယ်၊ ဇောရဲ့အရှိန်နဲ့ လိုက်သွားတဲ့ အကျိုးစိတ်ပဲ၊ အမှန်တော့ ဘဝင်စိတ်ကိုပဲပြောတာ၊ "ပိဋ္ဌိဘဝင်"ခေါ်တယ်၊ အဲဒီလိုစိတ်တွေ ဖြစ်သွားလို့ရှိရင် ခုနက အာရုံရဲ့သက်တမ်းက ကုန်သွားပြီ၊ မျက်စိနဲ့ဆုံတဲ့ ရူပါရုံရဲ့သက်တမ်းက ကုန်ပြီ။

http://www.dhammadownload.com



ဥပမာ-မျက်စိနဲ့ဆုံလိုက်တဲ့ ရူပါရုံလေးဟာ သူ့ရဲ့သက်တမ်း ရှိတယ်၊ မဆုံမီက ရူပါရုံရဲ့ သက်တမ်းကိုပြောတာ မဟုတ်ဘူး၊ မျက်စိနဲ့ လာဆုံတဲ့ ရူပါရုံပန်းပွင့်လေးရဲ့ သက်တမ်းဟာ ဘယ်လောက်ရှိတုန်း၊ စိတ် ၁၇-ချက်နဲ့ ညီမျှတဲ့သက်တမ်းရှိတယ်၊ စိတ် ၁၇-ချက်ပြည့်ရင် သူရဲ့သက်တမ်းကုန်သွားပြီ၊ ပန်းအိုးထဲမှာ ရှိတဲ့ ပန်းကိုပြောတာ မဟုတ်ဘူးနော်၊ နောက်ထပ် ထပ်ကြည့်၊ နောက်ထပ် ထပ်မြင်တာ၊ တစ်ခါမြင်တဲ့ ရူပါရုံရဲ့သက်တမ်းက အဲဒီလောက်ပဲရှိတယ်၊ တစ်နာရီ စိုက်ကြည့်လည်း သူ့ရဲ့ သက်တမ်း ဟာ ဒီလိုပဲသွားနေမှာပဲ၊ သူ့ရဲ့ သက်တမ်းက ၁၇-ချက်၊ ခဏငယ်နဲ့ ဖြစ် တည် ပျက်နဲ့ ပြောမယ်ဆိုရင် ၅၁-ချက်။

အဲဒီလို သက်တမ်းကုန်တာနဲ့ နောက်ထပ်မြင်တာ နောက်ထပ်မှတ်, နောက်ထပ်မြင်တာ နောက်ထပ်မှတ်၊ ဒီလို အာရုံနဲ့ဝတ္ထု ဆုံစည်းတာကို အကြောင်းပြုပြီး စိတ်ဆိုတာ ဖြစ်ပေါ်လာရတာတဲ့။ ထာဝရရှိနေတဲ့အရာ မဟုတ်ဘူး၊ ဆိုပါစို့ - မျက်စိပိတ်ထားရင် မြင်သိစိတ်ဖြစ်ရဲ့လား၊ နားက အသံမကြားရင် ကြားသိစိတ် ဖြစ်ရဲ့ လား၊ မဖြစ်ဘူး၊ ဖြစ်တယ်ဆိုရင် နားထဲမှာ အမြဲကြားနေမှာပေါ့၊ ရှိနေတယ်ဆိုရင် ဒီသိစိတ်လေးဟာ အမြဲတမ်း သိနေမှာပေါ့၊ အဲဒီလိုသိနေတာမှမရှိဘဲ၊ နှာခေါင်းက အနံ့မရဘဲ နံသိစိတ်ဆိုတာ ဖြစ်ပါ့မလား၊ မဖြစ်ဘူး။

ကောင်းပြီ၊ မျက်စိနဲ့ ရူပါရုံ ဆုံလိုက်လို့ မြင်သိစိတ်လေး ဖြစ်လာတယ်ဆိုတာ အဲဒီ မြင်သိစိတ်လေးဟာ ဘယ်နေရာက ဖြစ်လာသလဲဆိုရင် မျက်လုံးက ဖြစ်တာ၊ အရပ်ပြောပြောရင် မျက်လုံးထဲကဖြစ်တာ၊ စက္ခုဝတ္ထုကို မှီပြီးဖြစ်တယ်လို့ ပြောတာနော်၊

http://www.dhammadownload.com



ရူပါရုံက ဖြစ်တာလားဆို မဟုတ်ဘူး၊ အဆင်းအာရုံနဲ့ ဝတ္ထု ဆုံလိုက်တဲ့အခါမှာ မြင်သိစိတ်လေးပေါ်လာတယ်၊ အဲဒီ မြင်သိ စိတ်လေးသည် ဘယ်နေရာက ပေါ်လာတုန်းဆို ဟောဒီ စက္ခုဝတ္ထု က ပေါ်လာတယ်လို့ ပြောတာ၊ စက္ခုဝတ္ထုကို မှီပြီးဖြစ်တာ၊ ဘာကြောင့် အဲဒီလိုပြောလဲဆို မျက်စိကန်းနေရင် မြင်သိစိတ် မလာတော့ဘူး၊ အမှီမရှိရင် မဖြစ်ဘူးလို့ပြောတာ၊

ကြားသိစိတ်လေးကလည်း သောတပသာဒကို မှီပြီးဖြစ်တယ်၊ နံသိစိတ်လေးကလည်း ဃာနပသာဒကို မှီပြီးဖြစ်တယ်၊ လျက်သိ စိတ်လေးကလည်း ဇိဝှါပသာဒကို မှီပြီးဖြစ်တယ်၊ ထိသိစိတ် ကလည်း ကာယပသာဒကို မှီပြီးဖြစ်တယ်။ ကျန်တဲ့ စိတ်တွေက ဘာကိုမှီပြီးဖြစ်တုန်းဆို ဟဒယဝတ္ထုကို မှီပြီးဖြစ်တာ၊ ဘာဖြစ်လို့ တုန်းဆို သူတို့က မျက်စိမြင်တာနဲ့လည်း မဆိုင်ဘူး၊ နားနဲ့ ကြားတာ နဲ့လည်း မဆိုင်ဘူး၊ ဆက်ပြီးတော့တွေးတဲ့အတွေးတွေ၊ မြင်သိစိတ် ဖြစ်တာဟာ မျက်စိကပဲ ဖြစ်နိုင်တာ၊ 'စက္ခုဝိညာဏ်စိတ်သည် စက္ခုဝတ္ထုကို မှီ၏' လို့ ဒီလို အဘိဓမ္မာသင်တဲ့လူတွေ သင်ရတာ၊ applied လုပ်ရတာ၊ ဝတ္ထုရုပ် ၆-ပါးမှာ 'စက္ခုဝိညာဏ်စိတ်သည် စက္ခုဝတ္ထုကို မှီ၏၊ သောတဝိညာဏ်စိတ်သည် သောတဝတ္ထုကို မှီ၏၊ ဃာနဝိညာဏ်စိတ်သည် ဃာနဝတ္ထုကိုမှီ၏၊ ဇိဝှါဝိညာဏ်စိတ် သည် ဇိဝှါဝတ္ထုကို မှီ၏၊ ကာယဝိညာဏ်စိတ်သည် ကာယဝတ္ထုကို မှီ၏' လို့ ဒီလိုပြောတာ။

ဖြစ်ပေါ်တဲ့နေရာကိုရည်ညွှန်းတာနော်၊ စည်သံလေး ဘယ်က ဖြစ်တုန်းဆို စည်ကဖြစ်တာ၊ စောင်းသံလေး ဘယ်ကဖြစ်တုန်းဆို စောင်းကြိုး စောင်းအိုးကဖြစ်တာ၊ လက်ကလာတာ မဟုတ်ဘူး၊

http://www.dhammadownload.com



တုတ်ကလာတာ မဟုတ်ဘူးလို့ ဒီလိုဆိုလိုတာ၊ ပန်းပွင့်လေးကိုမြင်လို့ မြင်သိစိတ်လေးဆိုရင် ပန်းပွင့်က ဖြစ်လာတာမဟုတ်ဘူး၊ အဲဒီတော့ ခုနကပြောတာနဲ့ ရောမသွားနဲ့၊ ခုနကပြောတာ ဒီစိတ်ကလေးဟာ မျက်စိထဲမှာရှိနေတာ မဟုတ်ဘူး၊ သို့သော် ဖြစ်တဲ့အခါကျတော့ မျက်စိကို မှီပြီးဖြစ်တာ၊ ဒီလိုပြောတာ။

ဆိုပါတော့ - စည်သံသည် စည်ထဲမှာရှိတာ မဟုတ်ဘူး၊ သို့သော် တုတ်နဲ့ရိုက်လိုက်၊ တီးလိုက်တဲ့အခါမှာ အသံထွက်လာတယ်၊ အဲဒီအသံသည် စည်ကို မှီပြီးတော့ဖြစ်တာ၊ စည်မပါဘဲ အဲဒီအသံ ဖြစ်ပါ့မလား၊ မဖြစ်ဘူး၊ သို့သော် စည်ထဲမှာ ရှိနေတာလားဆိုတော့ မရှိဘူး၊ ဒီလိုပြောရမယ်၊

စက္ခုဝိညာဏ်စိတ်သည် စက္ခုပသာဒရုပ်မှာ ရှိနေတာလားဆိုရင် မရှိဘူး၊ ရူပါရုံနဲ့ ဆုံမိတဲ့အခါမှသာ ပေါ်လာတာ၊ ပြီးရင် ပျက်သွားတာ၊ သောတဝိညာဏ်စိတ်ဟာလည်း အသံနဲ့ နားဆုံလိုက်တဲ့အခါ ဘွားကနဲ ပေါ်လာတာ၊ ပြီးရင်ပျက်သွားတာ၊ ဃာနဝိညာဏ်ဟာလည်း ထို့အတူပဲ နှာခေါင်းနဲ့ အနံ့၊ ဇိဝှါဝိညာဏ်စိတ်ကလည်း အရသာနဲ့ လျှာ၊ ကာယဝိညာဏ်စိတ်ကလည်း ဖောဋ္ဌဗ္ဗာရုံနဲ့ကိုယ် ဆုံလိုက်တဲ့အခါ ပေါ်လာတာ။

သို့သော် ဒီနေရာမှာ သတိထားရမှာက မှီဖြစ်ရာကိုသာ ဝတ္ထုရုပ် ၆-ပါးလို့ ပြောတာ၊ ဆုံစည်းတာကိုတော့ ဟဒယဝတ္ထုနဲ့ ဓမ္မာရုံ ဆုံတယ်လို့ မပြောဘူး၊ **'မနဉ္စ ဓမ္မေ စ ပဋိစ္စ ဥပ္ပဇ္ဇတိ မနောဝိညာဏံ'** ဟောတဲ့အတိုင်း မနနဲ့ ဆုံတယ်လို့ ပြောရမယ်၊ ဟဒယနဲ့ ဆုံတယ်လို့ မပြောဘူး၊ ဒါကို သတိထားရမယ်၊

http://www.dhammadownload.com



အာယတန ၆-ပါး ရေတွက်တဲ့အခါ interal, external အတွင်းအာယတန ၆-ခု, အပြင်အာယတန ၆-ခု၊ အဲဒီ အတွင်း အာယတန ၆-ခုလို့ ပြောတဲ့အခါမှာ စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယ၊ မန၊ ဒီမှာ ဟဒယ မဟုတ်ဘူး၊ ဘာဖြစ်လို့လဲလို့မေးရင် နှလုံးသားသက်သက်က စိတ်ကိုဖြစ်စေနိုင်တဲ့ အနေအထားမရှိဘူး၊ အားလုံးဟာ ဘဝင်စိတ်ဆိုတဲ့ အခြေခံစိတ်မရှိရင် စိတ်ဆိုတာ မပေါ်နိုင်ဘူးဆိုတဲ့ အဓိပ္ပါယ်ကို ထင်ရှားစေတယ်၊ ဒါကြောင့်မို့ အဋ္ဌသာလိနီအဋ္ဌကထာမှာ "အာရုံတစ်ခုဟာ တံခါးနှစ်ပေါက်စီမှာ အမြဲတမ်း ထင်တယ်လို့ဆိုတာ"။

ဆိုပါစို့ - ဝတ္ထုရုပ် ၆-ပါးရှိသလို ဒွါရလည်း ၆-ပါး ရှိတယ်၊ တံခါး ၆-ခု ရှိတယ်၊ အဲဒီတံခါးဟာ စိတ်ရဲ့တံခါးလို့ ပြောလို့ ရပေမယ့် ပိုပြီးသဘာဝကျတာတော့ အာရုံရဲ့တံခါးလို့ ပြောရမယ်၊ အာရုံဝင်တဲ့ တံခါး ၆-ခု ရှိတယ်၊ ဆိုပါစို့ - ရူပါရုံဝင်လာတဲ့ တံခါးပေါက်က စက္ခုပသာဒ၊ အသံရဲ့ ဝင်ရာတံခါးပေါက်က သောတ၊ အနံ့ဝင်ရာတံခါးပေါက်က ဃာန၊ အရသာရဲ့ ဝင်ရာ တံခါးပေါက်က ဇိဝှါ၊ ဖောဋ္ဌဗ္ဗာရုံရဲ့ဝင်ရာ တံခါးပေါက်က ကာယ၊ ကျန်တဲ့ အာရုံဝင်ရာ တံခါးပေါက်က ဘဝင်စိတ်၊ ဘဝင်စိတ်ကို 'မန'လို့သုံးတယ်၊ ဒါကြောင့်မို့ ကျမ်းစာတွေမှာ မနောဒွါရ mind door စိတ်တံခါးဆိုတာ ဘဝင်စိတ်ကို ပြောတာပါတဲ့။

ဒီတော့ စိတ်ဖြစ်လာဖို့ လိုအပ်တဲ့ အခြေအနေတွေကို ပြောရမယ်ဆိုရင် ဝတ္ထုရုပ် ၆-မျိုးကို လေ့လာရမယ်၊ အာရုံ ၆-မျိုးကို လေ့လာရမယ်၊ ပြီးတော့ ဒွါရ ၆-မျိုးကို လေ့လာရမယ်၊ အဲဒီ

http://www.dhammadownload.com



ဝတ္ထုရယ် အာရုံရယ် ဒွါရကနေပြီး ဆက်သွယ်မိသွားပြီဆိုရင် ခုနက စိတ် ကလေးတွေ ပေါ်လာတာ။

ဆိုပါစို့ - ရူပါရုံဆိုတဲ့ အာရုံသည် eye door ကနေ ဝင်လာပြီး စက္ခုဝတ္ထုကို လာထိခိုက်တယ်၊ အဲဒီအချိန်မှာ စက္ခုဝိညာဏ်စိတ် ပေါ်လာတာ၊ ထိုရူပါရုံနဲ့ အလုပ်လုပ်တဲ့ စိတ်တွေလည်း ပေါ်တယ် ပေါ့၊ ထို့အတူပဲ အသံက ear door ကနေ ဝင်လာပြီး သောတ ပသာဒကို လာထိခိုက်တယ်၊ ထိခိုက်တဲ့အခါ သောတဝိညာဏ်စိတ် ပေါ်လာတယ်၊ အဲဒီအတိုင်း အနံ့က ဃာနပသာဒကို လာထိခိုက်လို့ ဃာနဝိညာဏ်စိတ် ဖြစ်ပေါ်လာတယ်၊ အရသာက ဇိဝှါပသာဒကို လာထိခိုက်လို့ ဇိဝှါဝိညာဏ်စိတ် ဖြစ်ပေါ်လာတယ်၊ ဖောဋ္ဌဗ္ဗာရုံက ကာယပသာဒကို လာထိခိုက်လို့ ကာယဝိညာဏ်စိတ် ဖြစ်ပေါ် လာတယ်။

နောက် ဟဒယဝတ္ထုနဲ့ ပတ်သက်တာကျတော့ မျက်စိနဲ့ မြင်တာလည်း မဟုတ်ဘူး၊ နားက ကြားတာလည်း မဟုတ်ဘူး၊ နှာခေါင်းက အနံ့ရတာလည်း မဟုတ်ဘူး၊ စိတ်သက်သက်နဲ့ တွေးပြီး တော့ယူတာ၊ ရှိတာလည်း ဖြစ်တယ်, မရှိတာလည်း ဖြစ်တယ်၊ တွေးယူတာဆိုတော့ အရှိချည်းပဲ မဟုတ်ဘူး၊ မရှိတာလည်း တွေးတောတာပဲလေ၊ မနက်ဖြန်မရှိဘူး၊ မနက်ဖြန်အကြောင်း တွေးလို့မရဘူးလား၊ မနက်ဖြန် အကြောင်းကို မရှိသေးပေမယ့် မနက်ဖြန် ဘယ်သူလာမယ်ဆို တွေးပြီးလုပ်လို့ရတာပဲ၊ သို့သော် လာချင်မှ လာမှာပေါ့၊ မနက်ဖန်အကြောင်းလည်း တွေး, ဟို နောက်နှစ် အကြောင်းလည်း တွေးလို့ရတာပဲလေ၊ အဲဒီလို တွေးတာ တွေကျတော့ mind door ကနေ ဝင်လာတာ၊ mind door က

http://www.dhammadownload.com



ဝင်ပြီး စိတ်ဖြစ်တာကတော့ ခုန ဟာဒယကနေဖြစ်တာ၊ ဟာဒယကို မှီပြီးတော့ စိတ်ကဖြစ်တယ်။

အဲဒါကြောင့်မို့လို့ ဒွါရ ၆-ပါးမှာ မနောဒွါရ ပါတယ်၊ ဝတ္ထုရုပ်ကျတော့ မနောဒွါရ မပါဘူး၊ အာရုံ ၆-ပါး, ဒွါရ ၆-ပါး, ဝတ္ထုရုပ် ၆-ပါး၊ အဲဒါတွေ ပေါင်းဆုံလိုက်တဲ့အခါ စိတ်ကလေး ဖြစ်လာတာပါလို့ - အဲဒါ စိတ်ဖြစ်ပေါ်လာပုံပဲ၊ အကျဉ်းအားဖြင့် စိတ်ဖြစ်ပေါ်လာပုံကို သိသာမြင်သာအောင် ပြောပြတာ။

ဒီတော့ ဘဝင်စိတ်ဆိုတဲ့ အခြေခံစိတ်ကလေး မရှိဘဲနဲ့ ကျန်တဲ့စိတ်တွေ မဖြစ်ဘူး၊ အဋ္ဌသာလိနီအဋ္ဌကထာမှာ အာရုံတွေဟာ ဆိုပါစို့ - မျက်စိကမြင်ရတဲ့ အဆင်းအာရုံသည် တံခါးနှစ်ခုမှာ တစ်ပြိုင်နက်တည်း ထင်လာတယ်၊ နှစ်ခုဆိုတာ eye door ကိုလည်း ရောက်လာတယ်၊ mind door ကိုလည်း ရောက်လာတယ်၊ ဘဝင်လှုပ်တယ်ဆိုတာ အဲဒါကြောင့် ပြောတာ၊ အာရုံတစ်ခုဟာ ဒွါရနှစ်ခုကနေ ဝင်လာတယ်၊ ဝင်ပေါက်မရှိဘဲနဲ့ ဘယ်လိုလုပ်မှ ဝင်လို့ မရဘူး၊ ဟုတ်ရဲ့လား၊ ဝင်ပေါက်ဆိုတာရှိတယ်၊ လူ့ခန္ဓာကိုယ်မှာလည်း ထို့အတူပဲ၊ အာရုံက ဝင်ပေါက်တွေက ဝင်လာတဲ့အခါ အာရုံဝင်လာသည့်အတွက်ကြောင့် အပြင်ဘက်နဲ့ အတွင်းဘက် ဆက်သွယ်ရမယ်၊ ဆိုပါတော့ - အိမ်အပြင်ဘက်ကလူ အိမ်ထဲရောက်ချင်ရင် တံခါးကို အသုံးမပြုရဘူးလား၊ ပြုရတယ်၊ တံခါးပေါက်ကပဲ ဝင်ရမယ်၊ အဲဒီလိုပဲ အာရုံဆိုတဲ့ အပြင်ကအရာ အိမ်ထဲကို ဝင်လာတယ်ဆိုရင် ဒီတံခါးကပဲ ဝင်ရမှာပဲ၊ မျက်စိက မြင်လိုက်တဲ့ အဆင်းအာရုံလေး တစ်ခုသည် eye door မှာလည်းပေါ်လာတယ်၊ mind door မှာလည်း ပေါ်လာတယ်၊ မျက်စိကိုလည်း ထိရမယ်၊ ဘဝင်စိတ်

http://www.dhammadownload.com



ကိုလည်း ထိရမယ်၊ အဲဒီနှစ်ခုရှိမှ၊ တစ်ပြိုင်နက် ဖြစ်လာလို့ ဘဝင် စိတ်ဟာ ပြတ်သွားတယ်ဆိုတာ အဲဒါကြောင့် ပြတ်သွားတာတဲ့။

ဘုန်းကြီးတို့ မနှစ်တုန်းက မလေးရှားမှာ အဘိဓမ္မာသင်တန်း ပို့ချတုန်းက သင်တန်းသားထဲ Bulgaria ဘုန်းကြီးတစ်ပါး ပါတယ်။ ထူးထူးခြားခြားပဲ၊ Bulgaria ဆိုတာ ကြားဖူးကြလိမ့်မယ်၊ Rumania တို့၊ Bulgaria တို့ဆိုတာ အရင်တုန်းက ကွန်မြူနစ် နိုင်ငံတွေပေါ့၊ သူ့စကားက တော်တော်နားထောင်ရခက်တယ်၊ အသံက ကုလား သံနဲ့တူတယ်၊ သူက ခေတ်သိပ္ပံနည်းအရ ဒီအာရုံကနေပြီး မြင်သိ စိတ် ဖြစ်လာပုံအထိ ဆက်သွယ်ပုံကို ကွန်ပျူတာနဲ့ပြတာ၊ လူ့ရဲ့ မျက်စိမှာ ရှေ့က မြင်စရာအာရုံလေး ဝင်လာတာနဲ့တစ်ပြိုင်နက် မျက်လုံးထဲလေးတင် မဟုတ်ဘူး, သူက အာရုံကြောကနေသွားပြီး ဦးနှောက်နောက်ဘက်ထဲထိ ရောက်အောင်သွားတယ်၊ နောက်စေ့ နားမှာ အကွက်တစ်ကွက်ရှိတယ်၊ အဲဒီ အကွက်ထိအောင် အလင်းတန်းလေးက သွားတယ်၊ အဲဒီရောက်မှ မြင်တာတဲ့၊ ဒီကြားထဲမှာ block ဖြစ်နေရင် မမြင်ရဘူး၊ ဩော် mind door ဆိုတာ အဲဒါများ ဖြစ်နေမလားလို့ ဘုန်းကြီးတို့ စဉ်းစားကြည့်တယ်၊ ဒီကြားထဲပိတ်နေလို့ရှိရင် မြင်တယ်ဆိုတာ မဖြစ်နိုင်ဘူး၊ မျက်စိ ကတော့ အကောင်းကြီး၊ သို့သော် သွားတဲ့အာရုံကြောလေးက တစ်နေရာရာမှာ ဥပမာ- နားထင်လောက်က ပိတ်နေတယ်ဆိုရင် အဲဒီလူဟာ မြင်တယ်လို့ မပြောဘူး၊ မျက်စိကတော့အကောင်း, ဒါပေမဲ့ မမြင်ဘူး၊ မျက်စိကနေ ဝင်လာတဲ့ အလင်းတန်းလေးဟာ လူရဲ့နောက်စေ့နားမှာ ခေါင်းနောက်ပိုင်း သွားပြတယ်၊ အဲဒီကျမှ မြင်တယ်ဆိုတာ ဖြစ်တယ်။ ဒါ သိပ္ပံနည်းကပြောတာ။

http://www.dhammadownload.com



ဒီတော့ သိပ္ပံနည်းနဲ့ မြတ်စွာဘုရား ဟောထားတာတွေ အင်မတန်မှကိုက်ညီတယ်။ သူတို့ဟာက ရုပ်ကိုတော့ ရှာလို့တွေ့နိုင်တယ်ပေါ့။ နာမ်တရားကိုတော့ မြတ်စွာဘုရားလို ဘယ်လိုလုပ်ရှာလို့တွေ့မလဲ၊ ရုပ်တောင်မှ သူတို့ရှာတွေ့ရင် အတုံးအခဲပဲတွေ့မယ်၊ အသေးစိတ်ကိုတွေ့ဖို့ မလွယ်ဘူးပေါ့၊ ရုပ်တောင်မှ အကုန်တွေ့ဖို့ မလွယ်ဘူး။

မြတ်စွာဘုရားကျတော့ analyze လုပ်တဲ့နေရာမှာ အကြွင်းအကျန်မရှိအောင် analyze လုပ်နိုင်တာ၊ အဲဒီလို စွမ်းရည်သတ္တိချင်းတော့ မတူဘူးပေါ့။ နာမ်ဆိုတာကျတော့ သူတို့ Psychology ဆိုတာ တကယ့် Psychology မှ မဟုတ်တာ။

ဘုန်းကြီးတို့ဆီ လာလာပြီးတော့ မသိတာလေးတွေ မေးနေတဲ့, ယခု ရန်ကုန်မှာနေတဲ့ ပြင်သစ်လူမျိုး မစ္စတာဖလောရင့်ဆိုတာ တစ်ခါတုန်းက လျှောက်တယ်၊ အဘိဓမ္မာကို Psychology လို့ပြန်တာ သူက သဘောမကျဘူး၊ ဘာလို့လဲဆိုတော့ Psychology ဆိုတာ ဘာမှမပါဘူးတဲ့၊ Psychology ဆိုတာ ဘာမှမဟုတ်ဘူး၊ ဒီအဘိဓမ္မာက အလွန်လေးနက်တာ Psychology မဟုတ်ဘူးတဲ့၊ သူက အဲဒီလို ပြောသွားတယ်။

နယ်သာလန်နိုင်ငံမှာ သင်တန်းသွားပို့ချတုန်းက မစ္စတာဟင့်ခ် ဆိုတဲ့ ပါမောက္ခတစ်ယောက် သင်တန်းလာတက်တယ်၊ သူ့အဖေက Psychologist၊ Psychology ပါမောက္ခကြီး၊ သူ ငယ်ငယ်တုန်းက သူ့အဖေက ပြောဘူးတယ်၊ "စာမျက်နှာ တစ်ထောင်လောက်ရှိတဲ့ Psychology နဲ့ ပတ်သက်တဲ့ စာအုပ်ကြီးမှာ

http://www.dhammadownload.com



Psychology အကြောင်းရေးထားပေမယ့် ဣဿာ ဆိုတဲ့ jealousy အကြောင်း ရေးထားတာ မတွေ့ရဘူးတဲ့။

ဒီတော့ ဗုဒ္ဓမြတ်စွာဟောကြားတာက အလွန်ပြီးပြည့်စုံတယ်၊ လူ့ရဲ့သဘာဝ အရေးကြီးတာတွေ၊ လူ့ခန္ဓာကိုယ်ထဲက ဖြေရှင်းပစ်ရမယ့် purify လုပ်ပစ်ရမယ့် သန့်ရှင်းပစ်ရမယ့် စိတ်ရဲ့ အညစ်အကြေးတွေကို မချန်ချွင်းအောင် ဟောထားတာ၊ အဲဒီ ညစ်နွမ်းနေတဲ့ စိတ်ရဲ့အင်အားစုတွေကိုလည်း ဖယ်ရှားပစ်ဖို့အတွက် ဖြူစင်စေနိုင်တဲ့ စွမ်းအားတွေကိုလည်း မြတ်စွာဘုရားက ထည့်ပြီး ပြည့်ပြည့်စုံစုံ ဟောထားတာ။

ဒါကြောင့် စိတ်ဖြစ်ပုံနှင့်စပ်၍ စိတ်ဟာ ဘယ်လိုဘယ်ပုံ ဖြစ်လာသလဲ၊ စိတ်ဟာ အရှိတရားလား အဖြစ်တရားလားလို့ဆိုရင် အဖြစ်တရားပါ, အကြောင်းတရားကြောင့် ဖြစ်တာပါ၊ ဘာ့ကြောင့် ဖြစ်တာတုန်းဆိုတော့ အခုပြောခဲ့တယ် - ဝတ္ထုနဲ့အာရုံ ဆုံစည်းမိလို့ ဖြစ်တယ်၊ ဝတ္ထုနဲ့အာရုံက ဘယ်လိုလုပ် ဆုံမိလဲဆိုရင် door ကနေ ဝင်လာတာ, တံခါးခြောက်ပေါက်ကနေ ဝင်လာတာ၊ ဆိုင်ရာ ဆိုင်ရာ တံခါးပေါက်ကနေ ဝင်လာပြီး ဆုံစည်းပြီး စိတ်ဖြစ်ပေါ်တာဆိုတာ ဘုန်းကြီးတို့ ဒီနေ့ အကြမ်းဖျဉ်းအားဖြင့် ဟောပြောပြသခြင်း ဖြစ်ပါတယ်။

အဲဒီမှာ အသေးစိတ်သိဖို့ကတော့ ဆိုင်ရာဆိုင်ရာ အဘိဓမ္မာကျမ်းတွေ လေ့လာဖို့ လိုပါတယ်၊ ဆိုပါစို့ - ရူပါရုံကို အာရုံပြုတဲ့ စိတ်က ဘယ်လောက်ရှိသလဲ, သဒ္ဒါရုံကို အာရုံပြုတဲ့စိတ်က ဘယ်လောက်ရှိသလဲ စသည်ဖြင့်၊ အာရုံ ၆-ပါးဆိုတာ ရူပါရုံ သဒ္ဒါရုံ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ၊ ကျန်အာရုံ အားလုံးသည် ဓမ္မာရုံလို့

http://www.dhammadownload.com



ခေါ်တယ်၊ ဓမ္မာရုံဆိုတာ ကျန်တဲ့အာရုံတွေကို အကုန်လုံးပေါင်းပြီး ဓမ္မဆိုတဲ့ စကားလုံးကို ဆိုလိုက်တာ။

"ဓမ္မ" ဆိုတဲ့ စကားလုံးကို ဘာလို့ သုံးသလဲဆို 'သတ္တဝါ မဟုတ်ဘူး' ဆိုတဲ့ အဓိပ္ပါယ်ကို ပြောတာ၊ လူတွေထင်နေတဲ့ "ဇီဝ" ဆိုတာ မဟုတ်ဘူး၊ "သတ္တ" ဆိုတာမဟုတ်ဘူး၊ တကယ့် nature, the law of nature ဓမ္မဆိုတဲ့ စကားလုံးကို အဲဒီ အဓိပ္ပါယ်နဲ့သုံးတာ၊ မြတ်စွာဘုရားက လောကမှာရှိတဲ့ သတ္တဝါတွေဟာ ကိုယ့်ကိုယ်ကို သတ္တသညာ မပျောက်ဘူးတဲ့၊ illusion ဖြစ်နေကြတယ်၊ တကယ် သတ္တဝါလို့ ထင်နေကြတယ်၊ အဲဒါတွေ ပျောက်စေရန်အတွက် မြတ်စွာဘုရားက "ဓမ္မ" ဆိုတဲ့ စကားလုံးကို သုံးတယ်၊ "ဓာတု" ဆိုတဲ့ စကားလုံးကိုသုံးတယ်၊ ဓာတုဆိုတာ တကယ့်ကို သူ့သဘာဝ အတိုင်း သူဆောင်တဲ့အရာ၊ ထင်နေတဲ့ သတ္တဝါဆိုတာ မဟုတ်ဘူး၊ အသက် ဆိုတာ မဟုတ်ဘူး၊ ခိုင်မြဲတဲ့အရာဆိုတာ မရှိဘူးဆိုတာကို ထင်ရှား ပေါ်လွင်စေလိုလို့ သုံးတယ်။

ခုနက ဓမ္မာရုံလို့ ပြောတဲ့အာရုံတွေဟာလည်း သဘာဝအာရုံ တွေအားလုံး၊ စိတ်နဲ့သိလို့ရတဲ့ အာရုံတွေအားလုံး၊ ရှိတာရော မရှိ တာရော အကုန်လုံးကို ဓမ္မာရုံလို့ ခေါ်တယ်၊ မျက်စိနဲ့ မြင်ရတာက ရူပါရုံ၊ နားနဲ့ ကြားတာက သဒ္ဒါရုံ၊ နှာခေါင်းနဲ့ နံတာက ဂန္ဓာရုံ၊ လျှာနဲ့ လျက်သိတာက ရသာရုံ၊ ခန္ဓာကိုယ်နဲ့ ထိပြီးတော့ သိတာက ဖောဋ္ဌဗ္ဗာရုံ၊ ကျန်အာရုံတွေ မှန်သမျှဟာ အခုပြောခဲ့တဲ့ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်တို့နဲ့ ဆက်သွယ်မှုမပြုဘဲနဲ့ စိတ်နဲ့ သိရတယ်၊ အဲဒါတွေအားလုံးကို ဓမ္မအာရုံလို့ ခေါ်တာ၊ အာရုံ ၆-ပါး ဝတ္ထုရုပ် ၆-ပါး ဒွါရ ၆-ပါး ဆုံမိခြင်းကြောင့် စိတ်ဖြစ်တယ်။

http://www.dhammadownload.com



အကြောင်းတရားကို အမှီပြုပြီး စိတ်ဖြစ်တယ်ဆိုတာကို အကျဉ်းချုပ် perspective view အနေနဲ့ ဘုန်းကြီးတို့ ဟောကြားတာ ဖြစ်ပါတယ်။

ဒါကြောင့် တရားချစ်ခင် သူတော်စင်ပရိသတ်တို့သည် စိတ်ဆိုတဲ့ သဘာဝတရားဟာ အဖြစ်တရားမျှသာ ဖြစ်တယ်၊ ဆိုင်ရာဆိုင်ရာ အကြောင်းကြောင့် ဖြစ်ပေါ်လာတဲ့ စိတ်သည် ဆိုင်ရာဆိုင်ရာ အကြောင်းတရားတွေက မမြဲသလို ဖြစ်ပေါ်လာတဲ့ စိတ်လေးဟာလည်း မမြဲဘူးလို့ဆိုတဲ့ ဓမ္မအသိဉာဏ်ကို ကိုယ်စီ ကိုယ်စီ ရရှိအောင် ကြိုးစားနိုင်ကြပါစေသတည်း။



http://www.dhammadownload.com

## မှတ်တမ်း

သာသနာတော် သက္ကရာဇ် ၂၅၅၂-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၇၀-ပြည့်နှစ်၊ တပေါင်းလပြည့်ကျော် ၁၂-ရက်၊ ရန်ကုန်တိုင်း၊ စမ်းချောင်းမြို့နယ်၊ အောင်ချမ်းသာရပ်ကွက်၊ သီရိမင်္ဂလာလမ်း၊ ကံမြင့်ကျောင်းတိုက် ဓမ္မာရုံတွင် ဆင်ယင်ကျင်းပ ပြုလုပ်သည့် ညဉ့်ဦးယံ ဓမ္မသဘင်ဝယ်၊ စမ်းချောင်းမြို့နယ်၊ ၃၆၊ ကျွန်းတောလမ်း၊ ပထမထပ်နေ ဦးကြည်အောင်+ဒေါ်ပန်းသီ မွေးနေ့မင်္ဂလာ အလှူနှင့်စပ်၍ ဓမ္မဒါနအဖြစ်ဖြင့် ဟောကြားအပ်သော **"စိတ်ဖြစ်ပုံ လေ့လာခြင်း အပိုင်း(၂)"** တရားဒေသနာတော် ဖြစ်ပါသည်။

http://www.dhammadownload.com

# အခန်း - ၂

## စိတ်ဖြစ်ပုံကို လေ့လာခြင်းအကြောင်း (၂)

မနေ့က စိတ်ဆိုတာ အဖြစ်တရား၊ ဘာဖြစ်လို့ အဖြစ်တရားလို့ ခေါ်တုန်းဆိုရင် အကြောင်းတရားတွေကိုမှီပြီး အကြောင်းတရားတွေ ဆုံစည်းမှ ဖြစ်လာတာ ဖြစ်သောကြောင့် အဖြစ်တရားလို့ ပြောခဲ့တယ်။ ဖြစ်ပြီးလို့ရှိရင်လည်း စိတ်ဟာ ချက်ချင်း ချုပ်ပျက်ပြီး သွားလေ့ရှိတယ်၊ စိတ်က အဖြစ်တရားဆိုတော့ အကြောင်းတရားတွေ ဆက်လက်ရှိနေသေးသမျှ ဒီစိတ်ဟာလည်း ဆက်လက်ဖြစ်နေမှာပဲ၊ သံသရာထဲမှာ စဉ်ဆက်မပြတ် အကြောင်းတရားတွေရှိနေသည့်အတွက် စိတ်ဟာလည်း ဆက်လက်ဖြစ်ပေါ်နေမှာပဲ၊ ဘဝသံသရာမှာ အကြောင်းတရား ရပ်သွားတာနဲ့ တစ်ပြိုင်နက် စိတ်ဖြစ်မှုဟာလည်း ရပ်တန့်သွားမှာဖြစ်တယ်။

http://www.dhammadownload.com



အဲဒီအကြောင်းအရာတွေ ရပ်သွားတာနဲ့ စိတ်ဖြစ်မှု ရပ်သွားတယ်ဆိုတာ ဥပမာအားဖြင့် အနာဂါမ် ရဟန္တာ ဖြစ်ပြီး ဈာန်လည်း ရလို့၊ စိတ်ဖြစ်စဉ်ကြီး ခေတ္တခဏ ရပ်နားတဲ့အနေနဲ့ နိရောဓသမာပတ် ဝင်စားလိုက်မယ်ဆိုရင် ၇-ရက် ဝင်စားရင် ၇-ရက် စိတ်ဖြစ်မှုရပ်တန့်သွားတယ်။ ဘာ့ကြောင့် ရပ်တန့်သွားလဲဆိုရင် အကြောင်းတရားတွေ မရှိတော့လို့ ရပ်တန့်သွားတာ။ သို့သော် အစဉ်ထာဝရရပ်တန့်တာမဟုတ်ဘူး၊ ခေတ္တခဏ ဘာဝနာစွမ်းအားနဲ့ ရပ်တန့်သွားတယ်လို့ ပြောတာ။

ဘဝတစ်ခုအနေနဲ့လည်း ရပ်တန့်ထားတာရှိတယ်၊ ဘယ်ဘဝမျိုးလဲဆိုရင် အသညသတ္တ (စိတ်မဲ့သတ္တဝါ၊ သညာမဲ့သတ္တဝါ၊ သညာကို ခေါင်းစီးတပ်ပြီးတော့ ပြောတာ၊ သညာမှ မရှိရင် စိတ်လည်းမရှိဘူး, ဝေဒနာလည်း မရှိဘူး, ဖဿလည်း မရှိဘူး၊ ဘာမှ မရှိဘူးလို့ ဆိုလိုတယ်) သညာမဲ့သတ္တဝါ၊ အသိမဲ့သတ္တဝါ၊ အဲဒီသတ္တဝါ ဖြစ်နေတဲ့ အချိန်ဆိုလည်း စိတ်အစဉ်ဟာ ခေတ္တခဏ ရပ်တန့်သွားတယ်လို့ ပြောရမယ်၊ ဘာကြောင့် ရပ်တန့်သွားတုန်းဆိုရင် အကြောင်းတွေကို ရပ်လိုက်လို့ အကျိုးပြတ်သွားတဲ့ သဘောပဲ။

သံသရာထဲမှာ အကြောင်းတွေက ဆက်လက်ဖြစ်နေသေးသမျှ ကာလပတ်လုံး စိတ်ဟာ ဘယ်တော့မှ ရပ်တန့်သွားမှာ မဟုတ်ဘူး, ဖြစ်နေမှာပဲ၊ ဒါကြောင့်မို့ စိတ်အစဉ်မှာ ဖြစ်နေတဲ့ ကံတရားတွေဟာ ဘဝသံသရာမှာ On Line ဖြစ်နေတာ၊ "ကံကြမ္မာ ဘေး ပြေးလို့မလွတ်" ဆိုတဲ့အတိုင်း လူတွေရဲ့ စိတ်အစဉ်မှာ ကံဟာ စုမိဆောင်းမိ ဖြစ်သွားပြီး ထိုကံရဲ့အကျိုးကို ခံစားကြရတယ်၊

http://www.dhammadownload.com



သွားတယ်။ ဘုရားနဲ့တွေ့ တရားဓမ္မနာရလို့ ရဟန္တာဖြစ်သွားတယ်။ ကြည့်- အဲဒီ အတိတ်ဘဝက သံဝေဂကုသိုလ်ဟာ နည်းတဲ့ ကုသိုလ် မဟုတ်ဘူး။

အခုလည်း ကောင်းပြီ - ရှင်စူဠပန်ကို ပုဝါဖြူကလေး ပေးတယ်ဆိုတာ အတိတ်ဘဝနဲ့ စပ်ပြီးတော့ပေးတာ၊ လူတိုင်းကို ပေးတာ မဟုတ်ဘူး၊ ရှင်စူဠပန်ကို ပုဝါဖြူလေး ပေးလိုက်တာဟာ အတိတ်ဘဝတုန်းက ပုဝါလေးမှာ ဩဒါတကသိုဏ်းကို လေ့ကျင့်ခဲ့ဖူးတယ်၊ လေ့ကျင့်ပြီးတော့ ဈာန်အဘိညာဏ်တွေ ရခဲ့ဖူးတယ်၊ အဲဒီဘဝက အရှိန်အဝါတွေကို မြတ်စွာဘုရားက စုစည်းပေးလိုက်တာ၊ စုစည်းပေးလိုက်တော့ ဒီ ဖြူဆွတ်နေတဲ့ ပုဝါဆိုတဲ့ အဖြူ အာရုံလေးမှာ စိတ်ကို လေ့ကျင့်ပေးတာ၊ ပုဝါဖြူလေးကို ရှေ့ချ ချပြီးတဲ့အခါမှာ ထိုပုဝါအဖြူရောင်လေးကို စိုက်ပြီးကြည့်တယ်၊ စာလိုပြောရင် ဩဒါတကသိုဏ်း ရှုတယ်ပေါ့၊ "အဖြူ အဖြူ"လို့ စိတ်ထဲက မှတ်ပြီးတော့နေတယ်၊ အဲဒီလို မျက်စိဖွင့်ပြီးတော့ အဖြူအာရုံလေးကို မျက်စိနဲ့ မှတ်နေတာကို 'ပရိကမ္မနိမိတ်' လို့ ခေါ်တယ်၊ အာရုံနိမိတ်တစ်ခုကိုယူနေတာ၊ စိတ်ကို ဘာနဲ့လေ့ကျင့် နေတာတုန်း? အာရုံနဲ့လေ့ကျင့်နေတာ၊ အဲဒါလည်းပဲ စိတ်ဖြစ်စဉ် တစ်ခုတည်းမှာ ပါတယ်၊ ဒါ သာမန်နဲ့ မရဘူး၊ ရိုးရာမဟုတ်ဘူး။

အဲဒါက အာရုံကို စိတ်နဲ့လေ့ကျင့်တာ၊ ကြည့်- အဖြူ အဖြူနဲ့ လေ့ကျင့်နေတဲ့အခါ ဒီ သူလေ့ကျင့်နေတဲ့ အာရုံလေးဟာ "ပရိကမ္မနိမိတ်"၊ ပြင်ဆင်ပြီးတော့ထားတဲ့ အာရုံလေးတစ်ခုအပေါ် မှာ စိတ်ကို ပြင်ဆင်လေ့ကျင့်နေတာ၊ အဲဒီလို လေ့ကျင့်လိုက်တဲ့ အခါ မကြာခင်ပဲ အဖြူအာရုံလေးဟာ စိတ်ထဲမှာ စွဲထင်သွား

http://www.dhammadownload.com



တယ်၊ ကင်မရာနဲ့ ရိုက်ယူလိုက်သလိုပဲ စိတ်ထဲမှာ စွဲထင်သွားတယ်၊ အဲဒီတော့ စွဲထင်သွားတဲ့ အာရုံလေးကိုကျတော့ "ဥဂ္ဂဟနိမိတ်" လို့ ခေါ်တယ်၊ မျက်စိနဲ့ ကြည့်စရာမလိုဘူး။

မျက်စိကြည့်နေတဲ့အချိန် ဝီထိစိတ်နဲ့ ပြောမယ်ဆိုလို့ရှိရင် ဘာတုန်း စက္ခုဒွါရဝီထိစိတ်တွေ ဖြစ်နေတယ်၊ ဟုတ်ကဲ့လား? အဲဒီဇောစိတ်တွေက အဖြူအာရုံကို အာရုံပြုပြီးနေတယ်၊ ဇောစိတ်တွေ အကြိမ်ကြိမ်ဖြစ်လို့ စိတ်ထဲမှာ စွဲထင်သွားပြီ ဖလင်ထဲမှာ ရုပ်ပုံလေး သို့မဟုတ် အခု digital chip ပြားမှာ ရုပ်ပုံလေး ထင်သွားသလို ထင်သွားပြီ ဆိုတဲ့အခါကျတော့ "ဥဂ္ဂဟနိမိတ်" ဆိုတာ ပေါ်လာတယ်။

ပရိကမ္မနိမိတ်မှာ လုပ်နေတဲ့ သမာဓိက "ပရိကမ္မသမာဓိ" လို့ ခေါ်တယ်၊ မျက်စိနဲ့ကြည့်ပြီးတော့ စိတ်နဲ့မှတ်နေတာ၊ စိတ်ကို အဖြူအာရုံပေါ်မှာ အလုပ်လုပ်နေတယ်၊ လေ့ကျင့်ပေးနေတယ်၊ လေ့ကျင့်ပေးနေလို့ စိတ်ကစွဲပြီဆိုတာနဲ့ တစ်ပြိုင်နက် ဥဂ္ဂဟနိမိတ်တဲ့၊ စိတ်နဲ့မှတ်ထားလိုက်နိုင်ပြီ၊ အဲဒီအာရုံကို စိတ်စွမ်းနဲ့ မှတ်ထားလိုက်နိုင်ပြီ၊ စိတ်ထဲမှာ ရောက်သွားပြီ ဆိုကတည်းက ခုနက လေ့ကျင့်ထားတဲ့အာရုံထက် ပိုပြီးတော့ ပီပြင်လာတယ်၊ စိတ်တည်ငြိမ်မှုတွေကလည်း ပိုလာတယ်၊ ဒါ အာရုံနဲ့ စိတ်ကို လေ့ကျင့်တာ။

သာမန်မြင်ရင်တော့ အမြင်ပဲလေ၊ လူတွေ မျက်စိဖွင့်ရင် မျက်စိရှိတဲ့သူတွေ မြင်နေကြတာပဲ၊ ဟိုဟာမြင် ဒါမြင် မြင်နေကြတာပဲ မျက်စိက၊ ဟော အခုက လေ့ကျင့်ယူလိုက်တာဆိုတာ ပရိကမ္မနိမိတ်အပေါ်မှာ လေ့ကျင့်လိုက်တဲ့အခါ ဥဂ္ဂဟနိမိတ်

http://www.dhammadownload.com



ရလာပြီ၊ သမာဓိလေးလည်း အတော်တည်လာပြီ၊ အဲဒီဥဂ္ဂဟနိမိတ်ကို ထပ်ပြီးတော့ စိတ်နဲ့ လေ့ကျင့်ပေးလိုက်တယ်။

"နိမိတ်ဆိုတာ အာရုံ"ကို ပြောတာပါပဲ၊ စိတ်ထဲမှာ စွဲမှတ်ထားတဲ့အာရုံမှာ ထပ်ပြီးတော့ လေ့ကျင့်ပေးလိုက်တဲ့အခါ ဘာဖြစ်လာတုန်းဆိုလို့ရှိရင် ပင်ကိုယ်အာရုံလည်း မဟုတ်တော့ဘူး၊ ထိုပင်ကိုယ်အာရုံနဲ့ ဆက်နွယ်လာပြီးတော့ အခြေအနေ ပြောင်းလဲလာတဲ့ စိတ်ထဲမှာ ထင်ဟပ်ပေါ်လွင်လာတဲ့ အာရုံတစ်မျိုး ပေါ်လာတယ်၊ အလားတူ အာရုံတစ်ခုပေါ်တယ်၊ အဲဒါကို "ပဋိဘာဂနိမိတ်" လို့ ခေါ်တယ်၊ အလားတူပေါ်လာတဲ့ အာရုံ။

ခုနတုန်းက မျက်စိကနေ တိုက်ရိုက်ကြည့်အာရုံကို "ပရိကမ္မနိမိတ်"လို့ ခေါ်တာနော်၊ မျက်စိကဖွင့်ပြီးတော့ မျက်စိနဲ့ မှတ်နေတာ၊ စိတ်နဲ့ မျက်စိနဲ့ တွဲဖက်ပြီး အလုပ်လုပ်နေတာ ပရိကမ္မနိမိတ်၊ မျက်စိအကူအညီ မယူတော့ဘဲ စိတ်ထဲမှာ စွဲထင်နေတဲ့အာရုံတစ်ခုအပေါ်မှာ အလုပ်လုပ်တာကို "ဥဂ္ဂဟနိမိတ်"၊ အဲဒီဥဂ္ဂဟနိမိတ်ဟာ နောက်ပိုင်းကျတော့ ပြောင်းလွဲလာတဲ့အခါကျတော့ "ပဋိဘာဂနိမိတ်" တဲ့။

ပဋိဘာဂနိမိတ် ဖြစ်လာပြီ ဆိုလို့ရှိရင် အဲဒီ ပဋိဘာဂနိမိတ်သည် ပင်ကိုယ်ထက် ပိုပြီးတော့ တောက်ပြောင်လာတယ်၊ ထင်ရှားလာတယ်၊ ပိုပြီး clear ဖြစ်လာတယ်၊ အဲဒီ ပဋိဘာဂနိမိတ်ရောက်တဲ့အခါ စျာန်နဲ့နီးကပ်လာတဲ့ သမာဓိစွမ်းအားတွေ ရလာပြီ၊ အာရုံနဲ့ စိတ်ကို လေ့ကျင့်တာနော်။

စျာန်နားကပ်လာတဲ့ သမာဓိစွမ်းအားတွေ ရလာပြီး အဲဒီ သမာဓိ စွမ်းအားတွေကို ထပ်မံတိုးမြှင့်လိုက်လို့ ထင်လာတဲ့

http://www.dhammadownload.com



ပဋိဘာဂအာရုံအပေါ်မှာ ထပ်ဆင့်ပြီးတော့ စဉ်ဆက်မပြတ် လေ့ကျင့်လိုက်တဲ့အခါ အဲဒီ ပဋိဘာဂနိမိတ်မှာ "ပထမဈာန်" ဆိုတာကို ရရှိသွားတယ်။

ဒါဖြင့် ပထမဈာန်ဆိုတဲ့ ပထမအဆင့် ရသွားလို့ရှိရင် အခြေအနေက ဘယ်လိုရှိတုန်းဆိုတော့ အဲဒီ ပဋိဘာဂနိမိတ်ဆိုတဲ့ စိတ်ထဲမှာပေါ်လာတဲ့ အာရုံလေးပေါ်မှာ ပိုပြီးတော့ ကြည်လင်ပြတ်သားတဲ့ သမာဓိစွမ်းအားတွေ၊ စိတ်စွမ်းအားတွေ ပေါ်လာတယ်။

အဲဒီအာရုံပေါ်မှာ တွေးနေတဲ့ အတွေးစိတ်ရှိတယ်၊ "ဝိတက်" လို့ခေါ်မယ်၊ အဲဒီအာရုံလေးပေါ်မှာ အမြဲတမ်းရစ်ဝဲနေတဲ့ "ဝိစာရ" ဆိုတာရှိမယ်၊ အဲဒီအာရုံလေးပေါ်မှာ ကျေနပ်နေတဲ့ "ပီတိ" ဆိုတာ ရှိမယ်၊ ကိုယ်ရော စိတ်ပါ နှစ်ခုစလုံး အေးချမ်းနေတယ်ဆိုတဲ့ "သုခ"ဆိုတာ ရှိမယ်၊ တည်ငြိမ်နေတဲ့ စိတ်ကလေးဟာ အဲဒီအာရုံပေါ်မှာ ငြိမ်သွားပြီးတော့ ဘေးကိုရွေ့မရဘဲနဲ့ ဒီအာရုံ တစ်ခုတည်းပေါ်မှာပဲ စိုက်ပြီးတော့ အာရုံနဲ့စိတ်နဲ့က တွယ်ကပ်ထားသလို (super glue နဲ့ ကပ်ထားလိုက်သလို) ကပ်သွားတယ်၊ အာရုံနဲ့ စိတ်နဲ့ တွယ်ကပ်ပြီး ရပ်နေသလို ဖြစ်သွားတာ၊ "ဧကဂ္ဂတာ" ပေါင်းလိုက်တဲ့ အခါကျတော့ ဝိတက်ရယ် ဝိစာရရယ် ပီတိရယ် သုခရယ် ဧကဂ္ဂတာရယ် ဟောဒီ ၅-ပါး unity ဖြစ်သွားပြီ၊ harmony ဖြစ်သွားပြီ။

တကယ့်ကို ဒီ ၅-ခုဟာ ဟန်ချက်ညီညီနဲ့ စုပေါင်းပြီး အာရုံနဲ့ အလုပ်လုပ်နေပြီဆိုရင် ဘယ်အရာတွေ ကင်းသွားတုန်းဆိုတော့ **"ဝိဝိစ္စေဝ ကာမေဟိ"** မျက်စိက မြင်ရတဲ့အာရုံ၊ နားက ကြားရတဲ့

http://www.dhammadownload.com



အာရုံ၊ နှာခေါင်းက နမ်းရတဲ့အာရုံ၊ လျှာက လျက်ရတဲ့အာရုံ၊ ခန္ဓာကိုယ်က ထိတွေ့ရတဲ့အာရုံလို့ဆိုတဲ့ ဒီအာရုံတွေပေါ်မှာ ခံစားချင်တဲ့ ကာမတဏှာ လုံးဝပြတ်တောက်သွားပြီ၊ မရှိတော့ဘူး၊ 'ကာမ' လိုချင်စရာအာရုံတွေပေါ်မှာ လိုချင်နေတဲ့ လောဘနဲ့ ဖြစ်ပေါ်လာတာတွေ မရှိတော့ဘူးလို့ ဆိုလိုတယ်။

အဲဒါဟာ ဒီခံစားချင်တဲ့စိတ်တွေ မျက်စိနဲ့ ကြည့်ချင်တယ်၊ နားနဲ့ ကြားချင်တယ်၊ နှာခေါင်းနဲ့ နမ်းရှူချင်တယ်၊ လျှာနဲ့ လျက်ချင်တယ်၊ ခန္ဓာကိုယ်နဲ့ ထိတွေ့ချင်တယ်ဆိုတဲ့ အဲဒီလောဘနဲ့ ဖြစ်ပေါ်နေတဲ့ ပြင်းထန်တဲ့ဆန္ဒတွေကို **'ကာမစ္ဆန္ဒ'** လို့ ခေါ်တယ်၊ Desire for sensual pleasure စိတ်ရဲ့ ပျော်မွေ့စရာတွေပေါ်မှာ လိုချင်နေတဲ့ ဒီကာမစ္ဆန္ဒဆိုတဲ့တရား လုံးဝချုပ်ငြိမ်းသွားတယ်။

ဘယ်သူတွေက ချုပ်ငြိမ်းအောင် လုပ်လိုက်သလဲဆိုတော့ ခုနက အာရုံလေးပေါ်မှာ တည်ငြိမ်တဲ့စိတ် - ဝိတက် ဝိစာရ ပီတိ သုခ ဧကဂ္ဂတာ ဆိုတဲ့ ဈာန်အင်္ဂါ ၅-ပါးက ချုပ်ငြိမ်းသွားအောင် လုပ်လိုက်တာ။ နီဝရဏတွေကို လောင်မြိုက်ပစ်လိုက်တယ်။ အဲဒီ ကာမစ္ဆန္ဒ မလာတော့ဘူးလို့ ဆိုလိုတယ်။

အဲဒါတင် မကဘူး၊ ဘာတွေက လွတ်ထွက်သွားတုန်းဆိုရင် ကျန်တဲ့နီဝရဏတွေဖြစ်တဲ့ **ဗျာပါဒ** ဆိုတဲ့ အာရုံပေါ်မှာအလိုမကျမှု ဆိုတာလည်း မရှိတော့ဘူး၊ **ထိနမိဒ္ဓ** ဆိုတဲ့ စိတ်ကို တွန့်ဆုတ်စေတဲ့ နီဝရဏလည်း မရှိတော့ဘူး၊ **ဥဒ္ဓစ္စကုက္ကုစ္စ** ဆိုတဲ့ စိတ်လေလွင့်နေတာလည်း မရှိတော့ဘူး၊ ပူပန်မှုလည်း မရှိတော့ဘူး၊ **ဝိစိကိစ္ဆာ** ဆိုတဲ့ သံသယလည်း မလာတော့ဘူး၊ ဆိုလိုတာက ကုသိုလ်စိတ်ကို

http://www.dhammadownload.com



ဆို့ပိတ်တတ်တဲ့ နီဝရဏတရားတွေ အားလုံးဟာ ရပ်ဆိုင်းသွား တယ်လို့ ပြောတယ်။

အဲဒီ ရပ်ဆိုင်းလို့ရလာတဲ့ ချမ်းသာသုခကို "ဝိဝေကဇ ပီတိသုခ" လို့ ခေါ်တယ်၊ 'ဝိဝေက' ဆိုတာ ကာမဂုဏ်စိတ်တွေက လွတ်သွားတယ်၊ အကုသိုလ်အတွေးတွေ လုံးဝပြတ်တောက်သွား တယ်၊ အဲဒါတွေက ကင်းဆိတ် လွတ်မြောက်သွားသည့်အတွက် ကြောင့် ဝိဝေက၊ အဲဒီ ကင်းလွတ်မှုကြောင့် ဖြစ်ပေါ်လာတဲ့ 'ဝိဝေကဇ' ပီတိသုခတဲ့၊ ပျော်ရွှင်ပြီး ကိုယ်ချမ်းသာ စိတ်ချမ်းသာ ခံစားနေရတယ်လို့ ဆိုလိုတယ်၊ အဲဒါ ပထမစျာန်အဆင့်၊ စိတ်ကို လေ့ကျင့်လိုက်ရင် ဒီအဆင့် ရောက်သွားတယ်၊ အဲဒီသုခမျိုးက အပြောတင် မဟုတ်ဘူး၊ တကယ် စနစ်တကျ လေ့ကျင့်လို့ရှိရင် လေ့ကျင့်တဲ့ပုဂ္ဂိုလ်တွေ လက်တွေ့ရနိုင်တယ်ပေါ့။

ယခုခေတ်မှာ ဘာဖြစ်လို့ ရတဲ့သူ နည်းပါးတာလဲဆိုရင် လေ့ကျင့်သူတွေ နည်းကြလို့ ကာမဂုဏ်အာရုံတွေရဲ့ လွှမ်းမိုးမှုက ကြီးထွားနေတယ်၊ ကြီးထွားနေသည့်အတွက်ကြောင့် ကာမဂုဏ် အာရုံက ရှေးကထက် ပိုများလာတယ်၊ ကာမဂုဏ်အာရုံတွေ လိုချင်စရာတွေ ပိုများလာသည့်အတွက်ကြောင့် လိုချင်စိတ်တွေက ပိုများမလာဘူးလား?

ဘုန်းကြီးတို့ ငယ်ငယ်တုန်းက တောရွာ အရပ်ဒေသတွေမှာ ဆိုလို့ရှိရင် လူတွေဟာ ၆-လလောက် အလုပ်လုပ်ပြီး ၆-လ လောက် ထိုင်စားနေကြတယ်၊ ဘာအလုပ်မှ မလုပ်ဘူး၊ အေးအေး ဆေးဆေးပဲနေ၊ အဲဒီခေတ်တုန်းက ဓာတ်ဗူးဆိုတာ မရှိဘူး၊ မရှိတဲ့အတွက်ကြောင့် ဓာတ်ဗူးအတွက် ကုန်ကျစရာလည်း မရှိဘူး၊

http://www.dhammadownload.com



ရေဒီယိုလည်း မရှိဘူး၊ ကက်ဆက်လည်း မရှိဘူး၊ တယ်လီဗွီးရှင်းလည်း မရှိဘူး၊ အဲဒီအတွက် ကုန်ကျစရာ ဘာတစ်ခုမှ မရှိဘူး၊ မြို့ဆိုတာလည်း မရောက်ဖူးကြဘူး၊ ကားစီးဖို့ဆိုတာလည်း သူတို့စိတ်ထဲမှာ မရှိဘူး၊ ဟုတ်ကဲ့လား?၊ အချိန်တန်ရင် ကိုင်းလုပ်ငန်းလုပ်။ ကိုင်းသိမ်းပြီး အိမ်ပေါ်မှာ ဆန်တို့ ပဲတို့ ဆီတို့ တင်ထားတယ်။ အချိန်တန် ထမင်းလေး ချက်စားပြီး ကျန်တဲ့အချိန်က အားနေကြတယ်။

ဘုန်းကြီးကျောင်း ဆွမ်းပို့ချိန် ပို့မယ်၊ ဒိပြင်အချိန်က အားနေကြတယ်၊ ဘာမှ လိုတာလည်း မရှိဘူး၊ မြို့မသွားသည့် အတွက်ကြောင့် မြို့ပေါ်က အထူးအဆန်းပစ္စည်းတွေလည်း ဘာမှ လိုချင်စရာ မရှိဘူး၊ မြင်မှ မမြင်ဖူးတာဆိုတော့ လိုချင်စရာ မရှိဘူး၊ ကြားလည်း မကြားဖူးဘူးဆိုတော့ လိုချင်စရာလည်း မရှိဘူး၊ မြို့ဆိုတာ ဝေလာဝေး၊ ရွာနီးချင်း ဟိုနားဒီနား ရွာ ၂-ရွာ၊ ၃-ရွာ ဟိုဘက် ရောက်ဖူး သွားဖူးတာမှ မရှိဘဲ၊ အဲဒီလို မြို့မရောက်ဘဲနဲ့ လူ့ဘဝ အဆုံးသတ်သွားတဲ့ ပုဂ္ဂိုလ်တွေ အများကြီးပဲ။

အဲဒါ တကယ့်ကို တောခေါင်ပြီး မြို့နဲ့အဝေးကြီးလားဆိုရင် မဝေးဘူး၊ တကယ်တော့ မန္တလေးမြို့နဲ့ မိုင်-၅၀လောက်ပဲ ဝေးတယ်နော်၊ ခုခေတ်ဆိုရင် မိုင်-၁၀၀လည်း သွားတယ်၊ မိုင်-၂၀၀ လည်း သွားတယ်၊ မိုင်-၃၀၀၊ ၄၀၀ လည်း သွားတာပဲ၊ ဟုတ်ကဲ့လား? အေး - မြင်စရာအာရုံတွေကမရှိတော့ လိုချင်တဲ့လောဘတွေက နည်းမသွားဘူးလား?

အဲဒီတုန်းက ကိုယ့်စိုက်ခင်းကပေါ် သူများပေး၊ သူများစိုက်ခင်းကပေါ် ကိုယ်ကယူစား၊ ပြောင်းဖူးတို့ ပဲတို့ ပေါ်တဲ့

http://www.dhammadownload.com



အချိန်ဆို ဟိုအခင်းက အရင်ပေါ်ရင် ဟိုအခင်းက ယူစား၊ ရောင်းစားတယ်ဆိုတာ မရှိဘူး၊ သူ့အခင်းပေါ် သူ့ဆီကစား၊ ကိုယ့်အခင်းပေါ် ကိုယ့်ဆီကစားနဲ့ လူတွေဟာ ညီညွတ်ကြတယ်၊ ဒီလို အချိန်ပိုင်းကလေးကို ဘုန်းကြီးတို့တတွေ မီလိုက်သေးတယ် ပေါ့။

လျှပ်စစ်မီးကလည်း မရှိတော့ ည လ,သာပြီဆိုရင် အလွန် ပျော်စရာကောင်းတယ်၊ လ,ရောင်ကလေးနဲ့ပဲ နေရတယ်၊ လ,ရောင်ကလေးနဲ့ဆို မီးထွန်းစရာ မရှိဘူး၊ သို့သော် တစ်ခါ တစ်လေ တိမ်မည်းကြီးက လ,ကို လာလာ ဖုံးတတ်တာလေးတော့ ရှိသေးတယ်၊ မြို့မှာ မီးပျက်တဲ့သူတွေ ခံစားရသလိုနေမှာပဲ၊ တိမ်မည်းကြီးက လ,ကို လာလာဖုံးတဲ့အခါ မှောင်သွားတယ်နော်၊ ဓာတ်မီးဆိုတာလည်း မရှိဘူး၊ ဒီလိုပဲ နေကြတာ၊ လိုချင်စရာ အလွန်နည်းတယ်။

ဘယ်အချိန်ပိုင်းတုန်းဆိုရင် ဒုတိယကမ္ဘာစစ် ဖြစ်ခါနီးလို့ လှုပ်နေတဲ့အချိန်ပိုင်းပေါ့၊ ၁၉၄၀-ပြည့် ပတ်ဝန်းကျင်မှာပဲ။ သို့သော် နောက်ပိုင်းကျတော့ ခေတ်မကောင်းတဲ့ အခြေအနေမျိုး ရောက်လာတယ်၊ ဒုတိယကမ္ဘာစစ် ဖြစ်လာတယ်၊ ဒုက္ခ ရောက်ကြ သူတွေ အများကြီးပဲ။ ဘုန်းကြီးတို့က ၁၀-နှစ်သား၊ တောရွာက နေပြီး စစ်ကိုင်းတောင် ရောက်လာတယ်။ အေး၊ စစ်ကိုင်းတောင် က အခုအချိန်နဲ့ ယှဉ်ကြည့်လိုက်မယ်ဆိုရင် အလွန်ကွာခြား သွားပြီ။ အဲဒီအချိန်တုန်းက အေးချမ်းတဲ့အရသာနဲ့ အခုအချိန် အင်မတန်မှကွာခြားတယ်၊ အဲဒီတုန်းက စစ်ကိုင်းတောင်ဆိုတာ လူတစ်ယောက်သာ သွားသာတဲ့ လမ်းကလေးတွေပဲရှိတယ်၊ တရုပ်

http://www.dhammadownload.com



စကားပင်ကြီးတွေက မိုးလို့၊ ဒဟတ်ပင်ကြီးတွေက မိုးလို့၊ ကျောက်ကလေးတွေ ခင်းထားတဲ့ လူသွားလမ်းကလေးတွေက ဖြတ်တက်ရတယ်၊ ရှဉ့်ကလေးတွေ၊ ငှက်ကလေးတွေ ဒီအကောင်လေးတွေပဲ ရှိတယ်၊ ဘယ်နေရာသွားသွား ကိုယ့်ခြေသလုံးအားကိုးနဲ့ကိုယ် သွားကြရတာ။

ကျားသစ်တွေ ဟောက်တဲ့အသံ ကြားရတယ်၊ စစ်ကိုင်းတောင်မှာ ခွေးမရှိဘူး၊ အဲဒီတုန်းက ခွေးရှိရင် ညကျ ကျားသစ်က လာဆွဲသွားတယ်၊ ဘာတွေရှိတုန်းဆို တောကြောင်တွေရှိတယ်၊ နေ့မှာဆိုရင် ရှဉ့်ကလေးတွေ၊ ငှက်ကလေးတွေရဲ့အသံပဲ ကြားရတယ်။

ခုခေတ်ဆိုရင် ဟိုနားက loudspeaker သံ၊ ဒီနားက loud speaker သံ ဆူညံသံတွေကြားရတယ်။ သီချင်းတွေကိုလည်း အမျိုးမျိုးဖွင့်ကြတယ်လေ။ တစ်ခါတုန်းက ဘုရားပေါ်က ဖွင့်လိုက်တဲ့ သီချင်းဟာ ဘာသီချင်းများ အောက်မေ့လဲ? "ကိုကိုရေ - ရူးပြီ ရူးပြီ" ဆိုတဲ့ သီချင်းဖွင့်တယ်၊ အဲဒီလိုဆူညံသံတွေ အခုခေတ်မှာ လွှမ်းမိုးသွားပြီဆိုတော့ "ဝိဝေကဇပီတိသုခ" ကင်းဆိတ်မှု ချမ်းသာဆိုတာ ဘယ်သိတော့မှာတုန်း၊ သိနိုင်ပါ့မလား? အေး - အဲဒီ ချမ်းသာမျိုးကို မသိတော့ဘူးလေ။

နားကျပ်ကလေးကို နားမှာတပ်ပြီး ဟုတ်လား? ဂျိန်း ဂျိန်း ဆိုတာနဲ့ လူတစ်ကိုယ်လုံး လှုပ်နေတဲ့ ချမ်းသာသုခတွေ၊ အဲဒီ ချမ်းသာသုခပဲ ခံစားနေကြမှာပဲ၊ အဲဒီ ချမ်းသာသုခနဲ့ အင်မတန်ကွာခြားပြီး တိတ်ဆိတ်ငြိမ်သက်လှတဲ့ ချမ်းသာသုခဆိုတာ ပျင်းစရာကြီး ဖြစ်ကုန်ပြီ။

http://www.dhammadownload.com



အဲဒီမှာ စိတ်ဖြစ်ပုံက ဘယ်လိုတုန်းလို့ဆိုရင် ဈာန်စိတ်ဖြစ်လာပုံလေးကို ဆက်ပြီးတော့ ပြောရမယ်ဆိုရင် လေ့ကျင့်ထားတဲ့ အာရုံကလေးပေါ်မှာ ပရိကမ္မနိမိတ်၊ ဒီ ပရိကမ္မနိမိတ်က တဆင့်ပြောင်းလာတဲ့ ဥဂ္ဂဟနိမိတ်၊ ထို့နောက် ပဋိဘာဂနိမိတ်ပေါ် စိတ်ကလေးငြိမ်သွားလို့ရှိရင် ဈာန်ရသွားတယ်။ ဈာန်ရသွားတဲ့ စိတ်အစဉ်ဟာ ဘယ်လိုဖြစ်လာသလဲဆိုရင် အဲဒီအာရုံပေါ်မှာ မနောဒွါရာဝဇ္ဇန်းဆိုတဲ့ စိတ်ကလေးက တံခါးကို ဖွင့်ပေးလိုက်တယ်။ ဖွင့်ပေးလိုက်တာနဲ့ တစ်ပြိုင်နက် သာမန်ဖြစ်နေကျ ကာမဇောတွေ မဟုတ်ဘဲနဲ့ ထိုကာမဇောတွေနဲ့ အလွန်ဆန့်ကျင်တဲ့ ပဋိဘာဂနိမိတ်ဆိုတဲ့ အာရုံလေးပေါ်မှာ ဘာဖြစ်လာတုန်းဆိုရင် "ပရိကမ္မ"ဆိုတဲ့ ဇောစိတ်ကလေး အရင်ဝင်လာတယ်၊ ပြင်ဆင်မှုလေး ဝင်လာတယ်၊ ပြင်ဆင်မှုကလေး ဝင်ပြီးတဲ့အခါ "ဥပစာရ" ဆိုတဲ့ ဇောစိတ်ကလေး ဖြစ်လာတယ်၊ ဥပစာရဇောစိတ်ကလေး ချုပ်သွားတာနဲ့ တစ်ပြိုင်နက် "အနုလောမ"ဆိုတဲ့ ဇောစိတ်ကလေး ဖြစ်လာတယ်၊ အနုလောမဆိုတဲ့ ဇောစိတ်ကလေး ချုပ်သွားတာနဲ့ တစ်ပြိုင်နက် "ဂေါတြဘူ"တဲ့၊ အနွယ်တစ်ခုကို ပြောင်းလွဲလိုက်ပြီ၊ ကာမအနွယ်ကနေပြီးတော့ မဟဂ္ဂုတ်ဆိုတဲ့ မြင့်မြတ်တဲ့အနွယ် ကာမဂုဏ်အာရုံတွေဖျောက်ပြီး ဟိုဘက်ကို ဖြတ်ကူးလိုက်ပြီလို့ ဆိုတဲ့ အဓိပ္ပာယ်ရတဲ့ ဂေါတြဘူဆိုတဲ့ ဇောလေး၊ ဒီဇောကလေးတွေက ဘယ်အရာတုန်းဆိုရင် မဟာကုသိုလ် ဉာဏသမ္ပယုတ်စိတ် ၄-ခုပဲ၊ အဲဒီ မဟာကုသိုလ် ဉာဏသမ္ပယုတ်စိတ် ၄-ခုကို နာမည်ပေးထားတာ၊ မဟာကုသိုလ် ဉာဏသမ္ပယုတ်စိတ် ဇောဟာ ၄-ကြိမ် ဖြစ်တယ်။

http://www.dhammadownload.com



ပထမဆုံးဖြစ်တာကို "ပရိကံ" လို့ ခေါ်လိုက်တယ်၊ ဒုတိယဖြစ်တာကို "ဥပစာ" လို့ ခေါ်လိုက်တယ်၊ တတိယအကြိမ် ဖြစ်တာကျတော့ "အနုလုံ" လို့ခေါ်တယ်၊ စတုတ္ထအကြိမ် ဖြစ်တာကျတော့ "ဂေါတြဘူ" လို့ ခေါ်လိုက်တယ်၊ နာမည်တစ်မျိုး ပေးလိုက်တာနော်၊ သူလုပ်တဲ့ လုပ်ဆောင်ချက်ကို ကြည့်ပြီးတော့ အမည်နာမအသစ်ကလေးတွေ ပေးလိုက်တာ။

အဲဒီလို မဟာကုသိုလ်ဉာဏသမ္ပယုတ် ဇောလေး ၄-ခါလည်း ဖြစ်ပြီးရော 'ဈာန်' ဆိုတာ ရောက်လာတယ်၊ ဈာန်ဆိုတာ ဝိတက် ဝိစာရ ပီတိ သုခ ဧကဂ္ဂတာ၊ အဲဒီ ၅-ခု အင်အားစုပြီး ဖွဲ့စည်းထားတဲ့ စိတ်တည်ငြိမ်မှု အနေအထားတစ်ခုကို ရောက်ရှိသွားတယ်။

အဲဒီ တည်ငြိမ်မှုအနေအထား ရောက်သွားလိုက်တာနဲ့ တစ်ပြိုင်နက် ကာမနဲ့ ပတ်သက်တဲ့ အတွေးတွေ လုံးဝငြိမ်သွားတယ်၊ မလာတော့ဘူး၊ အနီးနားကို မပေါ်နိုင်တော့ဘူး၊ ဘယ်လိုမှ မပေါ်တော့ဘူး၊ ဗျာပါဒနဲ့ ပတ်သက်တဲ့အတွေးတွေ၊ နီဝရဏတွေနဲ့ဆိုင်တဲ့ အတွေးတွေ အကုန်လုံး ချုပ်ငြိမ်းသွားတယ်။

ပထမဆုံးအကြိမ်ရတဲ့ ဈာန်ဆိုတာလေးက တစ်ကြိမ် ဖြစ်ပြီးရင် ဘဝင်ကျသွားတယ်၊ ထိန်းမထားနိုင်သေးဘူးလို့ ဆိုလိုတာပေါ့၊ ပထမဆုံး ရောက်လိုက်တဲ့အချိန်က ထိန်းမထားနိုင်ဘူး၊ အဲဒီ ဈာန်ဆိုတာလည်း ဇောပဲ၊ ပရိကံ ဥပစာ အနုလုံ ဂေါတြဘူ ဆိုတာက မဟာကုသိုလ်ဇော၊ မဟာကုသိုလ်ဇောက ကာမအနွယ် ကာမာဝစရစိတ်၊ ဈာန်ဆိုတာကျတော့ မဟဂ္ဂုတ်စိတ်၊ မဟဂ္ဂုတ်အနွယ်၊ အနွယ်ချင်း မတူဘူးလို့ ပြောတာနော်။

http://www.dhammadownload.com



အဲဒီဈာန်ဆိုတာ attainment လို့ခေါ်တယ်၊ ရရှိလာတဲ့အကျိုးပဲ၊ ကာမာဝစရစိတ် ဆိုတာကတော့ ကိုယ့်မွေးရာပါလို့ ပြောရမှာပေ့ါ၊ မဟာကုသိုလ်စိတ်ဆိုတာ မွေးရာပါလို့ ပြောလို့ရပါတယ်၊ ဘာဖြစ်လို့တုန်းဆိုတော့ ရိုးရာအားဖြင့် ဖြစ်လို့ပဲ။ ဒါနကောင်းမှု ပြုရင်လည်း ဖြစ်တယ်၊ အသိဉာဏ်ပါလာလို့ရှိရင် သီလဆောက်တည်တဲ့အခါ ဖြစ်တယ်၊ ကမ္မဋ္ဌာန်းဘာဝနာ ပွားတဲ့အခါ ဖြစ်တယ်၊ သို့သော် အဆင့်မြင့်လာပြီး ဈာန်ဘက်ကို ဦးတည်သွားပြီဆိုလို့ရှိရင် ပရိကံ ဥပစာ အနုလုံ ဂေါတြဘူလို့ လေးကြိမ်ဖြစ်ပြီးတာနဲ့ တစ်ပြိုင်နက် အဆင့်မြင့်တဲ့ ဈာန်ဆိုတဲ့ ဒီစိတ်ဓာတ်တစ်မျိုးက ထပ်ပြီးတော့ ပေါ်လာတယ်၊ ပေါ်လာပြီးရင် ထိန်းမထားနိုင်လို့ ပျောက်သွားတယ်၊ ပျောက်သွားသည့်အတွက်ကြောင့် ဒီလမ်းကြောင်းအတိုင်း ထပ်ပြီးတော့ လျှောက်တယ်၊ ဒီလမ်းကြောင်းအတိုင်း ထပ်ပြီးလျှောက်လိုက်တဲ့အခါ ပြန်ပြီးတော့ ဒီအဆင့်ကို နောက်အကြိမ်မှာ အောင်မြင်လာပြီဆိုရင် ဈာန်ကို ထိန်းလာနိုင်တယ်ပေ့ါ။

ဈာန် ဈာန် ဈာန် ဈာန်တွေချည်းပဲ ဆက်ဖြစ်နေအောင် ထိန်းထားပြီး နောက်ပိုင်းကျတော့ အလေ့အကျင့် ရသွားပြီဆိုရင် ပရိကံ ဥပစာ အနုလုံ ဂေါတြဘူ ဆိုတဲ့ ကာမာဝစရ မဟာကုသိုလ် ဉာဏသမ္ပယုတ်စိတ် ဇော ၄-ကြိမ် စောပြီးတာနဲ့ တစ်ပြိုင်နက် နောက်က ဈာန်ဆိုတာ ၁-နာရီလို့ အဓိဋ္ဌာန်ထားရင် ၁-နာရီတိတိ ဈာန်တွေနဲ့ချည်းပဲ နေလို့ ရတယ်၊ ထိန်းသွားလို့ရတယ်။

နောက် ထပ်ပြီးတော့ လေ့ကျင့်တယ်၊ လေ့ကျင့်ပါ များသွားတဲ့အခါကျတော့ နာရီဝက်ထိန်းသွားနိုင်တယ်၊ ၁-နာရီ ထိန်းနိုင်

http://www.dhammadownload.com



တယ်၊ တစ်နေ့လုံး လုပ်ထားလို့ ရတယ်၊ လေ့ကျင့်ခန်းယူတာလေ၊ physical exercises လုပ်တဲ့အခါမှာ လုပ်လို့ရသလိုပဲတဲ့၊ mental exercises ကလည်း လေ့ကျင့်ပြီးယူလို့ရတယ်လို့ပြောတာ၊ အဲဒီ စိတ်ကလေးကို ၁၂-နာရီ ထိန်းလို့ရတယ်၊ တစ်နေ့တာ ထိန်းလို့ ရတယ်၊ ဟော - ဈာန်စိတ်ကလေးနဲ့ နေနေတာ၊ အဲဒါကို ဈာန် ဝင်စားတယ်လို့ ပြောကြတယ်။

အဲဒီ ဈာန်မျိုး အဆင့်မမီတဲ့ ပုဂ္ဂိုလ်တွေက စာလေး တစ်ကြောင်းရေးရင် ဈာန်ဝင်စားနေတယ်လို့ ပြောနေကြတာနော်၊ အလုပ်ကလေးတစ်ခုကို ဈာန်ဝင်စားတယ်လို့ ပြောကြတယ်၊ တကယ် ဈာန်နဲ့ အဝေးကြီးနော်၊ တွေးချင်ရာ တွေးနေပြီးတော့ ဈာန်ဝင်စားတယ်လို့ပြောလို့ ဘယ်ရမလဲ၊ ဟိုက အာရုံ ၁-ခုလေး အပေါ်မှာ တည်ငြိမ်ပြီးတော့နေတာ။

"ဈာန" ဆိုတဲ့ အဓိပ္ပာယ်က အနီးကပ်ရှုမှတ်ပြီးတော့ အာရုံ နဲ့စိတ် ကပ်နေတဲ့သဘောကို ပြောတာ၊ တစ်နည်းအားဖြင့် "ဈာန" ဆိုတာ ဆန့်ကျင်ဘက် နီဝရဏတရားတွေကို လောင်ကျွမ်း ပစ်လိုက်တယ်၊ ဖျက်ဆီးပစ်လိုက်တယ်လို့ အဓိပ္ပာယ်ရတယ်၊ အဲဒီ ဈာန ဆိုတာ ဘယ်သူ့ကို ခေါ်တာတုန်းဆိုရင် ခုနက ဈာန်အင်္ဂါ ၅-ပါး၊ Unity of Jhàna factor ကို ပြောတာ၊ အဲဒီ ၅-ခုနဲ့ ထိန်းထားလိုက်တာတဲ့၊ ဒါ စိတ်ကိုလေ့ကျင့်တဲ့ ဖြစ်စဉ်ဟာ အဲဒီ ပုံစံနဲ့သွားလို့ ပြောတာနော်။

ပထမဆုံးရတဲ့အချိန်မှာ ဈာန် ၁-ကြိမ်ပဲ ဖြစ်တယ်၊ ဒုတိယ တတိယ အောင်မြင်သွားပြီဆိုတဲ့အခါ ဆက်လက်ထိန်းတဲ့အခါမှာ အကြိမ်နဲ့ မပြောတော့ဘူး၊ ၁-နာရီကြာဖြစ်မယ်၊ ၁-ရက်ကြာမယ်၊

http://www.dhammadownload.com



ဟုတ်လား အကြိမ်ဆိုရင် ပြောလို့မရတော့ဘူး၊ ဘာဖြစ်လို့တုန်း ဆိုတော့ လက်ဖျစ်တစ်တွက်အတွင်းမှာ ကုဋေ တစ်သိန်းခန့် ဖြစ်နိုင်တာကိုး၊ စျာန်စိတ်တွေချည်းပဲ ဆက်လက်ဖြစ်တာကို စျာန်ဝင်စားနေတယ်လို့ ပြောတာ။ အဲဒီနေရာမှာလည်းပဲ လေ့ကျင့်ခန်းတွေ အများကြီး လုပ်ရတယ်၊ အဲဒီ လေ့ကျင့်ခန်းတွေ အများကြီးလုပ်လို့ စွမ်းရည်သတ္တိတွေ ပြည့်လာတာကို "ဝသီဘော်" လို့ ခေါ်တယ်နော်။

ဝသီဘော်ဆိုတာ ဝသီဘာဝ က လာတာ။ ဝသီဘာဝ မှာ ဝသ ဆိုတာ စွမ်းရည်သတ္တိ၊ စွမ်းရည်သတ္တိရှိတာကို ဝသီဘာဝ၊ မြန်မာလို ဝသီဘော်လို့ ပြန်လိုက်တဲ့အခါကျတော့ အဓိပ္ပာယ် မပေါ်ဘူးပေါ့၊ စွမ်းရည်သတ္တိတွေ ရလာအောင် လေ့ကျင့်ယူတာ၊ အားကစားသမားတွေလည်း လေ့ကျင့်တာပဲ မဟုတ်လား? မလေ့ ကျင့်ဘဲနှင့် စွမ်းရည်တွေ ရလာတာ မဟုတ်ဘူး၊ သူတို့မှာ အမြဲ လေ့ကျင့်နေရတာ၊ အဲဒီလိုပဲ စျာန်ဝင်စားတဲ့ ပုဂ္ဂိုလ်ကလည်း လေ့ကျင့်ရတယ်။

လေ့ကျင့်တဲ့အခါမှာ **'အာဝဇ္ဇန'**- ခဏကလေး ဆင်ခြင်ရုံနဲ့ အမြန်ဆင်ခြင်လို့ရတဲ့ နည်းစနစ်၊ စိတ် သွက်လက်လာအောင် လေ့ကျင့်ပေးရခြင်း၊ **'သမာပဇ္ဇန'** - ကိုယ်ဝင်စားချင်တဲ့အချိန် ဖျတ်ခနဲဝင်စားလို့ရအောင် လေ့ကျင့်ရတယ်၊ **'အဓိဋ္ဌာန'** - ကိုယ့် စိတ်ထဲမှာ ပိုင်းခြားထားတဲ့ အချိန်အတိုင်း လုပ်လို့ရအောင် လုပ်ရတယ်၊ **'ဝုဋ္ဌာန'** - ကိုယ် ထ,ချင်တဲ့အချိန်၊ ရပ်သိမ်းချင်တဲ့ အချိန် ထလို့ရအောင် လေ့ကျင့်တယ်။ ထချင်တဲ့အချိန်ဆိုတာ စျာန်ဝင်စားမှုကို ရပ်တန့်တာကို ပြောတာနော်၊) ရပ်တန့်ချင်တဲ့

http://www.dhammadownload.com



အချိန် ရပ်လို့ရအောင် လေ့ကျင့်တာ၊ အရှိန်အဟုန်နဲ့ ပြေးနေတာ၊ ရပ်ချင်တယ်ဆိုတာ ချက်ချင်းရပ်လို့ဘယ်ရမလဲ၊ လေ့ကျင့်ပေးလို့ ရှိရင် ချက်ချင်းရပ်လို့ရတယ်၊ ဥပမာ- ၁-နာရီတိတိ ဝင်စားတယ် ဆိုရင် ၁-နာရီတိတိ အချိန်မှာ ထနိုင်အောင် လေ့ကျင့်ခန်းတွေ အများကြီးယူရတယ်၊ ယူလိုက်တဲ့အခါ ၁-နာရီကနေပြီးတော့ ၂-နာရီ အသံကလေး ဒင်ကနဲကြားလိုက်တာနဲ့ တစ်ပြိုင်နက် ဈာန်ကလည်း ထပြီးသား၊ ရပ်တန့်ပြီးသား ဖြစ်သွားရော၊ ဈာန်စိတ် တွေကို ရပ်ပစ်လိုက်တာ၊ ရပ်ပစ်လိုက်တဲ့အခါကျတော့ ပင်ကိုယ် စိတ်တွေ ပြန်ဝင်လာတယ်ပေါ့၊ ဒီလိုဆိုလိုတာ၊ အဲဒါကို 'ဝုဋ္ဌာနဝသီဘော်' လို့ခေါ်တယ်။

ဆင်ခြင်မှု သွက်လက်တာက "အာဝဇ္ဇန"၊ ဝင်စားတာ သွက်လက်တာက စွမ်းရည်သတ္တိရှိတာက "သမာပဇ္ဇန"၊ အဓိဋ္ဌာန် တဲ့အတိုင်း ဖြစ်တာက "အဓိဋ္ဌာန"၊ ချက်ချင်းရပ်တန့်နိုင်တာက "ဝုဋ္ဌာန"၊ နောက် **ပစ္စဝေက္ခဏာ**ဆိုတာ ကိုယ်ဝင်စားတဲ့ဈာန်ကို ပြန်ပြီးတော့ ဆင်ခြင်တာ တွေးတောတာ၊ စွမ်းရည်သတ္တိတွေက အပြည့်အဝရတယ်၊ အဲဒီလို လေ့ကျင့်ယူတာ၊ ဒါ - စိတ်ကို အာရုံနဲ့ လေ့ကျင့်တယ်ဆိုတဲ့ ဒီနည်းစနစ်ကို ပြောတာနော်၊ ဒါတွေလည်းပဲ စိတ်ဖြစ်စဉ်ထဲမှာ ပါတာပဲ၊ မလေ့ကျင့်ရင် အဲဒီအဆင့်အတန်းမျိုး ဘုန်းကြီးတို့တတွေ မရောက်နိုင်ဘူးတဲ့။

## ဒုတိယဈာန်ဖြစ်ပုံ

ကဲ - ကောင်းပြီ၊ အခုလို ပထမဈာန်အဆင့် ရသွားပြီဆိုရင် ရှေ့ကို ဆက်သွားစရာလမ်းကြောင်း ရှိသေးလားဆိုရင် ရှိသေး

http://www.dhammadownload.com



တယ်၊ ဆက်သွားချင်သေးတယ်ဆိုရင် သွားလို့ရသေးတယ်၊ သမာဓိစွမ်းအားတွေကို တိုးမြှင့်ဖို့ရန် ဘာလုပ်ရမလဲ၊ ခုနက ပထမစျာန်ဆိုတာ ဝိတက် ဝိစာရ ပီတိ သုခ ဧကဂ္ဂတာဆိုတာ ဒီ ၅-ခုနဲ့ ဖွဲ့စည်းထားတာ။ အဲဒီထဲမှာ ဝိတက် ဆိုတာ စိတ်ကို အာရုံပေါ် တင်တင်ပေးနေတဲ့ သဘောလေး၊ မြန်မာလိုဆိုတော့ တွေးပေးနေတဲ့ သဘော။ အဲဒီ တွေးနေရတာကိုက စိတ်ရဲ့ လှုပ်ရှားမှု၊ သမာဓိရဲ့အနှောင့်အယှက် ဖြစ်တယ်လို့ မြင်လာတယ်၊ ဒီအတွေးမပါရင် ကောင်းမှာပဲ၊ ဒီအတွေးက အာရုံပေါ်မှာ တင်တင်ပေးနေရတာ အနှောင့်အယှက်ဖြစ်တယ်။ အတွေး ပျောက်အောင် သမာဓိစွမ်းအားတွေ တိုးမြှင့်လိုက်တဲ့အခါ အဲဒီ ဝိတက်လေး ပြုတ်ကျသွားပြီး ဝိတက်လေးမပါဘဲနဲ့ အာရုံနဲ့စိတ် တွေ့သွားတယ်၊ ဝိတက်ဆိုတဲ့ အင်္ဂါကို ဖယ်ရှားပစ်လိုက်တာ၊ ဝိတက် ပြုတ်သွားလို့ ဒုတိယစျာန်အဆင့်လို့ ခေါ်တယ်။

ဒုတိယစျာန်အဆင့် ရောက်တဲ့အခါ ဝိတက်ရဲ့ လှုပ်ရှားမှု လေးက ငြိမ်ကျသွားတယ်၊ ငြိမ်ကျသွားပြီး စိတ်နဲ့အာရုံ ကွဲမသွား အောင် တွဲပေးထားတဲ့ ဝိစာရသာ ရှိတော့တယ်၊ ဝိစာရရယ် ပီတိရယ် သုခရယ် ဧကဂ္ဂတာရယ် အဲဒီ ၄-ခုနဲ့ ဖွဲ့စည်းလိုက်တဲ့ အခါ လှုပ်ရှားမှု တော်တော်လေး ငြိမ်ကျသွားတယ်၊ အဲဒါဟာ ဒုတိယစျာန်အဆင့်လို့ ခေါ်တယ်၊ သမာဓိစွမ်းအား ထက်လာသည့် အတွက်ကြောင့် သမာဓိကြောင့် ဖြစ်ပေါ်လာတဲ့ ချမ်းသာသုခ - "သမာဓိဇ ပီတိသုခ"၊ ခုနတုန်းက "ဝိဝေကဇ ပီတိသုခ" - ကာမဂုဏ်အာရုံတွေက လွတ်သွားတဲ့ ချမ်းသာသုခ၊ အခုဟာ ကျတော့ "သမာဓိဇ ပီတိသုခ"- သမာဓိစွမ်းအားကြောင့် ရရှိ လာတဲ့ ချမ်းသာသုခလို့ ဖြစ်ပေါ်လာတယ်။

http://www.dhammadownload.com



## အင်္ဂါ ၃-ခုနဲ့ ဒုတိယ(တတိယ)ဈာန်

အဲဒီနေရာမှာ တချို့ဉာဏ်ထက်တဲ့ ပုဂ္ဂိုလ်တွေကျတော့ ဝိတက်နဲ့ ဝိစာရ ၂-ခုစလုံးကို တစ်ခါတည်း ကျော်ပစ်လိုက်နိုင်တာလည်း ရှိတယ်၊ (များသောအားဖြင့် သုတ္တန်ပါဠိတော်တွေမှာ စတုက္ကနည်းလို့ခေါ်တဲ့ ဈာန် ၄-မျိုးပဲ ပြတယ်၊ ဈာန် ၅-မျိုး မပြဘူး၊) ဝိတက်နဲ့ ဝိစာရက သဘောချင်းတူတယ်၊ အာရုံပေါ်မှာ တင်ပေးထားတယ်, တင်ပေးထားတဲ့အတိုင်း ကွာမသွားအောင် ထိန်းပေးထားတယ်ဆိုတာ ဒါတွေ အနှောင့်အယှက်ဖြစ်တယ်လို့ဆိုပြီး ဒီ ၂-ခုကို ဖယ်ရှားပစ်လိုက်တယ်၊ ဒုတိယဈာန်အဆင့် ရောက်သွားတယ်။

ဒုတိယဈာန်အဆင့် ရောက်သွားလို့ရှိရင် ပီတိ သုခ ဧကဂ္ဂတာ ဆိုတဲ့ ဒီစိတ်အခြေအနေ ၃-ရပ်နဲ့ပဲ ကျေနပ်ပြီးတော့နေတယ်၊ ဒါကျတော့ "သပ္ပီတိကသုခ" လို့ ခေါ်တယ်၊ ပီတိပါတဲ့ ချမ်းသာကို ခံစားရတယ်၊ အဲဒါကို တတိယဈာန်အဆင့်လို့လည်း ပြောလို့ ရသွားတယ်နော်၊ ပီတိပါနေသေးတော့ တတိယဈာန် အဆင့်လို့ ဒီလိုပြောလိုက်တယ်၊ တစ်ခါ ပီတိရဲ့သဘောကို ဈာန် ရ,ထားတဲ့ တတိယဈာန်အဆင့်လို့ ဒီလို ပြောလိုက်တယ်။

## တတိယဈာန်ဖြစ်ပုံ

တစ်ခါ ပီတိရဲ့သဘောကို ဈာန်ရ,ထားတဲ့ပုဂ္ဂိုလ်က ဆင်ခြင်သုံးသပ်လိုက်တဲ့အခါမှာ ပီတိဆိုတာ စိတ်ပျော်ပြီးတော့ လှိုက်လှိုက်လှဲလှဲဖြစ်နေတာ၊ တသိမ့်သိမ့်နဲ့ ခန္ဓာကိုယ်ထဲမှာ ဖြစ်တတ်တာ၊ စိတ်မှာဖြစ်တတ်တဲ့ လှုပ်ရှားမှုကလေးတစ်ခု ဖြစ်နေတယ်၊ ဒါဟာ

http://www.dhammadownload.com



လည်း သမာဓိစွမ်းအားကို တစ်ဖက်တစ်လမ်းကနေ အနှောင့်အယှက် ပေးနေသလို ဖြစ်တယ်ပေါ့။ ဟုတ်ကဲ့လား? ဒီ ကျေနပ်နေတဲ့ ပီတိလေးက သမာဓိစွမ်းအားကို အနှောင့်အယှက် ပေးနေသလိုဖြစ်လို့ ပီတိကို မလိုချင်တော့ဘူး၊ နောက်ထပ် ပီတိ မဖြစ်ချင်အောင် သမာဓိစွမ်းအား တိုးမြှင့်လိုက်တဲ့အခါ စတုတ္ထအကြိမ်မှာ "သုခဧကဂ္ဂတာ" ဆိုတဲ့ ဟောဒီအင်္ဂါ ၂-ရပ်နဲ့ ဈာန်ကို ဖွဲ့စည်းရပ်တည်သွားတယ်၊ ခုနက ပြောခဲ့တဲ့ အာရုံလေးပေါ်မှာပဲနော်၊ ခုနက ဩဒါတကသိုဏ်း အာရုံလေးပေါ်မှာ ဟောဒီလို ပြောင်းလဲပြောင်းလဲပြီးတော့ လုပ်သွားတာ၊ အဲဒါကျတော့ "နိပ္ပီတိကသုခ"လို့ ခေါ်တယ်၊ "ပီတိမဲ့ချမ်းသာ"၊ ချမ်းသာတာက ပီတိရှိတဲ့ချမ်းသာက တစ်မျိုး၊ ပီတိကင်းမဲ့တဲ့ချမ်းသာက တစ်မျိုးတဲ့၊ ဒါတွေက လူတွေနားလည်ဖို့ အင်မတန် ခက်တယ်ပေါ့၊ ဘာဖြစ်လို့တုန်းဆိုရင် သာမန်နေ့စဉ်မှာ ခံစားဖို့ရန် ခက်ခဲတဲ့အရာတွေပေါ့။

## စတုတ္ထ(ပဥ္စမ)ဈာန်ဖြစ်ပုံ

အဲဒီ ပီတိမဲ့ချမ်းသာကိုရလာပြီ ဆိုတဲ့အခါ အဲဒီပုဂ္ဂိုလ်က စဉ်းစားတယ်၊ အဲဒီ ချမ်းသာနေတာကိုက ခန္ဓာကိုယ်မှာ တသိမ့်သိမ့်လေး ဖြစ်နေတယ်၊ ခန္ဓာကိုယ်ရဲ့အေးချမ်းမှု၊ စိတ်ရဲ့အေးချမ်းမှုလေး ဖြစ်နေတယ်။ တစ်နည်းအားဖြင့် ချမ်းသာဟာ လှုပ်ရှားမှုကလေး ဖြစ်နေသေးတယ်၊ ဗီလင်က သိသာနေသေးတယ်ပေါ့၊ ဒီသိသာနေတဲ့ ဗီလင်ကို မလိုချင်ဘူးတဲ့၊ လုံးဝကို ငြိမ်သွားတာကို လိုချင်တယ်။ ဒါကြောင့် သုခကိုဖယ်ရှားဖို့ ကြိုးစားလိုက်တဲ့အခါ စတုတ္ထဈာန် (သို့မဟုတ်) ပဥ္စမဈာန်အဆင့်ကို ရောက်သွားပြီ၊

http://www.dhammadownload.com



ဝေဒနာဆိုတာ လုံးဝဖယ်ရှားလို့ မရသည့်အတွက်ကြောင့် ဝေဒနာကို reduce လုပ်လိုက်တဲ့အခါ "ဥပေက္ခာ" ဖြစ်သွားတယ်ပေါ့၊ ဟုတ်ကဲ့လား?။

ဥပေက္ခာဆိုတာ "အဒုက္ခ မသုခ = ချမ်းသာတာလည်း မဟုတ်ဘူး၊ ဆင်းရဲတာလည်း မဟုတ်ဘူး" တဲ့၊ ကိုယ့်ဟာကိုယ် ဥပေက္ခာ အရသာလေး ခံစားကြည့်ပေါ့၊ လူတွေ တစ်ခါတစ်လေကျ ပျော်တာလည်းမဟုတ်၊ ပျင်းတာလည်းမဟုတ်-ရှိတယ်မဟုတ်လား? ဝမ်းသာတာလည်း မဟုတ်၊ ဝမ်းနည်းတာလည်း မဟုတ်ဆိုတာ စပ်ကြားကလေးခံစားနေတာ တည်ငြိမ်တဲ့ ခံစားမှုလေး။ အဲဒီမှာ ဥပေက္ခာ ဖြစ်လာတဲ့အခါ ဥပေက္ခာပါရိသုဒ္ဓိ - ဥပေက္ခာနဲ့ တည်ငြိမ်တဲ့ချမ်းသာကို ခံစားရတယ်။

ရှေ့ပိုင်းက သမာဓိရဲ့ စွမ်းအားနဲ့ အနှောင့်အယှက်ဖြစ်တဲ့ ဝိတက်ကို ဖယ်ရှားလိုက်တယ်၊ ဝိစာရကိုလည်း ဖယ်ရှားလိုက်တယ်၊ ပီတိကိုလည်း ဖယ်ရှားပစ်လိုက်တယ်၊ သုခကိုလည်း ဖယ်ရှားပစ်လိုက်တယ်၊ သမာဓိရဲ့ စွမ်းအားတွေက ပိုမိုတက်မသွားဘူးလား? လုံးဝ အနှောင့်အယှက်ကင်းသွားတော့ တည်ငြိမ်မှုတစ်ခုတည်း ရပ်တည်နေတယ်တဲ့။ ဥပေက္ခာဆိုတဲ့ ခံစားမှုက မထင်ရှားတဲ့ခံစားမှု၊ တည်ငြိမ်တဲ့ခံစားမှုနဲ့ ရပ်တည်နေသည့်အတွက်ကြောင့် စတုတ္ထ (သို့) ပဉ္စမဈာန် အဆင့်ဟာ လုံးဝ အဆင့်မြင့်သွားတယ်၊ အမြင့်ဆုံးအဆင့် ရောက်သွားပြီတဲ့။

ဒီထက်ပိုပြီးတော့ reduce လုပ်လို့ မရတော့ဘူးတဲ့၊ စိတ်က ဒီထက်ပိုပြီးတော့ လုပ်ပစ်လိုက်လို့က မရဘူးတဲ့၊ ဝေဒနာကို လုံးဝ ကင်းအောင် လုပ်လို့မရဘူးနော်။ အေး- ဒီနေရာမှာ "ဥပေက္ခာ

http://www.dhammadownload.com



ကေဂ္ဂတာ ၂-ခု”နဲ့ ဖွဲ့စည်းထားတဲ့ စတုတ္ထ (သို့) ပဥ္စမစျာန် အဆင့် ရောက်လာပြီဆိုရင် သမာဓိစွမ်းအားတွေ အလွန် အားကောင်းတယ်၊ အလွန်အားကောင်းသည့်အတွက်ကြောင့် ဒီနေရာမှာ “အဘိညာဉ်”ဆိုတဲ့ တန်ခိုးတွေကို ဖြစ်ပေါ် စေနိုင်တယ်။

သမာဓိစွမ်းအားနဲ့ စိတ်ညွှတ်လိုက်ရင် ဖြစ်လာတယ်။ ဆိုပါစို့ ငါထိုင်နေတဲ့ မြေကြီးအောက်မှာ ဘာတွေရှိသလဲ? ကြည့်ချင်လာတယ်၊ ကြည့်ချင်လာပြီဆိုရင် သူက ဒိဗ္ဗစက္ခုပရိကံ လုပ်လိုက်ရင် မျက်စိအမြင်တစ်မျိုးရတယ်၊ အဘိညာဉ်အမြင်တစ်မျိုး ရလာတယ်၊ သို့မဟုတ် သိပ်ဝေးတဲ့နေရာကအရာကို လှမ်းကြည့်တယ်၊ တောင်ကြီးတစ်တောင်ထဲမှာ ဘာတွေရှိတုန်း? ကြည့်ချင်တယ်၊ ငရဲဆိုတာရှိလား ကြည့်ချင်လာတယ်၊ နတ်ပြည် ဆိုတာရှိလား ကြည့်ချင်လာတယ်၊ တာဝတိံသာနတ်ပြည်ဆိုတာ ဘယ်နားမှာတုန်း ရှာကြည့်ချင်လာတယ်၊ ဗြဟ္မာတွေဆိုတာရှိသလား ကြည့်ချင်လာတယ်၊ ဒိဗ္ဗစက္ခုဆိုတဲ့ အဘိညာဉ်တစ်ခုရလာပြီး စိတ်ညွှတ်လိုက်ရင် မြင်နိုင်တယ်။

ဒိဗ္ဗစက္ခုရတဲ့အခါမှာ ဒီအတိုင်း ကြည့်လို့ရမလားဆိုရင် ဒီအတိုင်း ကြည့်လို့တော့ မရဘူး၊ စနစ်တကျ အလုပ်လုပ်ရတယ်၊ ဘယ်အရာပဲဖြစ်ဖြစ် စနစ်ကျမှရတယ်။ ညမှောင်ကြီးထဲ ကြည့်ချင်ရင် ဓာတ်မီးလေးနဲ့ ထိုးကြည့်ရတယ် မဟုတ်လား၊ အမှောင်ကြီးထဲမှာ မျက်စိက မြင်ရရဲ့လား? ကိုယ်ကြည့်ချင်တဲ့အရာ ခပ်လှမ်းလှမ်းကို လှမ်းကြည့်ချင်ရင် ဓာတ်မီးနဲ့ ထိုးကြည့်ကြတယ် မဟုတ်လား?။

http://www.dhammadownload.com



အဲဒီမျိုးလိုပဲ ဒိဗ္ဗစက္ခုအဘိညာဏ်ရတဲ့ ပုဂ္ဂိုလ်ဟာလည်း တောင်ကြီးထဲမှာ ဘာရှိတုန်း ကြည့်ချင်ရင် အဲဒီ ကိုယ်ကြည့်ချင်တဲ့ တောင်ထဲကို အလင်းရောင်ဖြန့်ရတယ်၊ ဓာတ်မီးထိုးတဲ့သဘောပဲ၊ အဲဒါ ဖြန့်လိုက်တဲ့အခါမှာ လင်းနေတဲ့နေရာတွေကို အကုန်ကြည့်လို့ရတယ်၊ အဲဒီ လင်းတဲ့နေရာ အတိုင်းအတာလည်း ကိုယ့်စိတ်တိုင်းကျ လုပ်လို့ရတယ်၊ တစ်တောင်လုံး လင်းချင်သလား သို့မဟုတ် ကိုယ်ကြည့်ချင်တဲ့ နေရာအပိုင်းလောက်ပဲ လင်းချင်သလား? လောကကြီးတစ်ခုလုံး လင်းသွားအောင် လုပ်ပြီးတော့ အကုန်လုံးကြည့်မှာလား ဆိုတဲ့အပေါ်မှာ မူတည်တယ်။

ကိုယ်ထိုင်နေတဲ့ မြေကြီးအောက် ဆိုလို့ရှိရင်လည်း ကိုယ်ထိုင်နေတဲ့နေရာ ကွက်ကွက်ကလေး အလင်းရောင်ဖြန့်မယ်ပေါ့၊ ဟော ဒါကျတော့ သူ့ရဲ့ဆန္ဒ သူ့ရဲ့ wish အတိုင်း သွားမှာပဲနော်၊ သို့သော် အလင်းရောင်မပါဘဲနဲ့ ဒိဗ္ဗစက္ခုဆိုတာ မဖြစ်ဘူးတဲ့၊ အဲဒီတော့ ဒိဗ္ဗစက္ခုအဘိညာဏ်နဲ့ ကြည့်ချင်ရင် ပဉ္စမစျာန်ဝင်စား, အလင်းရောင်ဖြန့်၊ အဘိညာဏ်နဲ့ဖန်ဆင်း၊ ဖန်ဆင်းလိုက်လို့ရှိရင် ခုန ကိုယ်ကြည့်ချင်တာတွေ ကြည့်လို့ရတယ်။

နားနဲ့ရော၊ နားကျပ်မလိုဘူး၊ ဒိဗ္ဗသောတနဲ့ သိကြားမင်းက တာဝတိံသာ နတ်ပြည်မှာ အစည်းအဝေးလုပ်နေရင် ဘာတွေ ပြောနေတာလဲလို့ နားထောင်ကြည့်ချင် ကြည့်လို့ရတယ်၊ ဟုတ်လား? နတ်ပြည်မှာ ဘာတွေပြောနေကြသလဲလို့ နားထောင်ချင်တယ်ဆိုရင် ဘယ်လောက်ဝေးတဲ့ နေရာပဲဖြစ်ဖြစ် ခုန သမာဓိစွမ်းအားနဲ့ နားထောင်တာ၊ သမာဓိစွမ်းအားနဲ့ အကြားစွမ်းအားတွေကို မြှင့်တင်လိုက်တာ၊ မြှင့်တင်လိုက်တဲ့အခါ ကိုယ် သတ်မှတ်

http://www.dhammadownload.com



ထားတဲ့ နယ်ပယ်အတွင်းမှာရှိတဲ့ အသံတွေကို ကြားလာရတယ်၊ ကိုယ်ကြားချင်တာတွေ ကြားလာတယ်၊ ဒါကို "ဒိဗ္ဗသောတ အဘိညာဏ်" လို့ ခေါ်တယ်။

ဣဒ္ဓိဝိဓအဘိညာဉ်ဆိုတာ တန်ခိုးအမျိုးမျိုး ဖန်ဆင်းတာ၊ တစ်ယောက်တည်းကနေ နှစ်ယောက်ဖြစ်တယ်၊ နှစ်ယောက်ကနေ သုံးယောက်ဖြစ်တယ်၊ တစ်ယောက်တည်းကနေ တစ်ထောင်ဖြစ်တယ်၊ ကိုယ်ပွား ဖန်ဆင်းလို့ရတယ်၊ ခုခေတ်လည်း အဲဒါမျိုး လုပ်ကြတာပဲလေ၊ ရှေ့ကနေ မှန် ၁-ချပ်ထောင်၊ ဟိုဘက်က မှန် ၁-ချပ်ထောင်လိုက်ရင် အဲဒါ သိန်းသန်းဘုရားဆိုပြီး လုပ်ထား ကြတာရှိတယ်လေ၊ မှန်တွေထောင်ပြီးပွားထားတာ၊ အဲဒီ "ဣဒ္ဓိဝိဓ အဘိညာဉ်" ဆိုတာ အဲဒီလို တန်ခိုးနဲ့ ၁-ဦးတည်းကနေ ၂-ဦး ဖြစ်အောင် လုပ်တယ်၊ ပေါ်လာတာကို ပျောက်သွားအောင် လုပ် နိုင်တယ်၊ ပျောက်နေတာဟာ ဘွားကနဲ ပေါ်လာအောင် လုပ်နိုင် တယ်။ အမျိုးစုံပဲ၊ အဲဒါတွေဟာ စိတ်စွမ်းအားကို ပိုင်ဆိုင်သွားပြီ၊ အဘိညာဉ်တွေ ရပြီဆိုရင် အကုန်လုပ်လို့ရတယ်၊ ဒါလည်းပဲ စနစ် ကျရင် လုပ်လို့ရတယ်၊ စနစ်မကျရင် ဘယ်ဟာမှ မအောင်မြင်ဘူး တဲ့။

မြင်ဖူးကြပါလိမ့်မယ်၊ ရုပ်ရှင်ကားတွေထဲမှာ တရုတ်ပြည်က မဟာတံတိုင်းကြီးကို ဟိုဘက်ဖောက်ပြီး ဝင်သွားတာတွေနော်၊ အဲဒါက ရုပ်ရှင်ထဲရိုက်ပြတာ၊ တကယ်ဖြစ်တာ မဟုတ်ဘူး။၊ အဘိညာဏ်နဲ့က စနစ်တကျလုပ်ရတယ်၊ တောင်ကြီးထဲကို ဝင်သွားချင်တယ်ဆိုလို့ရှိရင် ဘာလုပ်မတုန်း၊ ကိုယ်ဝင်မယ့် နေရာကို အပေါက်ဖြစ်အောင် အရင်ဖန်တီးရတယ်၊ အပေါက်

http://www.dhammadownload.com



မရှိဘဲ ဒီအတိုင်းတိုးဝင်လို့ကတော့ မရတာသေချာတယ်။ဝင်ချင်ပြီ ဆိုလို့ရှိရင် အပေါက်ကို အရင်ဖန်တီး, ဖန်တီးပြီးတော့မှ အဲဒီ အထဲကို ဝင်ရတယ်။

အဲဒီအဘိညာဉ်တွေနဲ့ ပတ်သက်လာလို့ရှိရင် ရှင်မဟာ-မောဂ္ဂလာန်မထေရ်မြတ်က အလွန်ကြည်ညိုစရာကောင်းတယ်၊ ကဒ္ဓိဝိဓအဘိညာဉ်ကိုစ္စ နေ့တိုင်း လေ့ကျင့်တယ်၊ အားရင် ဒါပဲ လုပ်နေတယ်၊ ဒါကြောင့်မို့ နန္ဒောပနန္ဒနဂါးမင်းကို ဆုံးမတဲ့အခါမှာ တခြားကိုယ်တော်တွေကို မြတ်စွာဘုရားက ဆုံးမဖို့ ခွင့်မပေးဘူး၊ ဘာလို့တုန်းဆို သူ့လောက်မြန်မြန် မလုပ်နိုင်ကြဘူး၊ တန်ခိုးတော့ ရှိတယ်၊ ရှိပေမယ့်လို့ နှေးနေတယ်၊ နှေးနေရင် ကိုယ်ခံရမှာပဲလေ၊ ရှင်မောဂ္ဂလာန်လို သွက်လက်ချက်ချာဖို့လိုတယ်၊ ဘာဖြစ်လို့တုန်း ဆို လေ့ကျင့်မှ သွက်လက်တာ၊ ဓားသိုင်းသမားတွေလိုပေါ့၊ အမြဲတမ်း လေ့ကျင့်ရတယ်၊ မလေ့ကျင့်ရင် ကိုယ်ကနှေးလို့ တစ်စက္ကန့် နောက်ကျသွားရင် ကိုယ်ခံလိုက်ရမှာပဲ၊ ဒါကြောင့်မို့ ရှင်မောဂ္ဂလာန်တစ်ပါးကိုပဲ မြတ်စွာဘုရားက ခွင့်ပြုတယ်။

ဘယ်နေရာမှာ အခက်ဆုံးလဲဆိုရင် နဂါးကြီးရဲ့ပါးစပ်ထဲ ဝင်ပြီး ပြန်အထွက် "သင် ဘယ်သူလဲ?" "ငါ မောဂ္ဂလာန်" "မောဂ္ဂလာန်ဆို ပြစမ်းပါ" ဆိုပြီး ရှင်မောဂ္ဂလာန်ပုံ ဖန်ဆင်းပြရတဲ့ အချိန်ပိုင်းကလေးမှာ နဂါးက ဖူးကနဲ လေမှုတ်လိုက်တာ၊ အဲဒီ အချိန်မှာ မကာကွယ်လိုက်နိုင်ရင် သွားပြီ။ ရဟန္တာပေမယ့် ပြာဖြစ်သွားမှာပဲ၊ အဲဒီအဆင့်ကလေးဟာ အလွန်မြန်ဖို့လိုတယ်လို့ ပြောတာနော်။ ရှင်မဟာမောဂ္ဂလာန်က ဒီနေရာမှာ လေ့ကျင့် ထားလို့ အကျွမ်းကျင်ဆုံးပဲ။

http://www.dhammadownload.com



မြတ်စွာဘုရားမှာ စွမ်းရည်သတ္တိတွေက အင်မတန်မှ ပြည့်စုံထက်သန်သည့်အတွက်ကြောင့် "ထူးမခြားနား သီချင်းကြီး" မှာ မကြာခဏ ကြားဖူးကြလိမ့်မယ်၊ ထူးတယ်၊ သို့သော် အချိန်ပိုင်းဟာ မခြားနားဘူးဆိုတဲ့ အဓိပ္ပာယ်ကို ပြောတာ၊ ထူးတာမှ အလွန့်ကို ထူးတယ်၊ မြတ်စွာဘုရားက ရေ မီး အစုံ ဆန့်ကျင်ဘက်ကို ဖန်တီးပြတဲ့အလုပ်ဟာ အင်မတန်လျင်မြန်မှ လုပ်လို့ရတာတဲ့၊ ဝင်စားတဲ့ အဆင့်တွေက တစ်ခုပြီးမှတစ်ခုလုပ်လို့ရတာ၊ သို့သော် ကြည့်တဲ့ သူရဲ့ မျက်စိထဲမှာ တစ်ပြိုင်နက်လို့ ထင်ရလောက်အောင် လျင်မြန်ရမယ်၊ မြတ်စွာဘုရားရဲ့ ပစ္စဝေက္ခဏာ ဇောစိတ်ဟာ ၄-ကြိမ်လောက်နဲ့ ပြီးတယ်လို့ပြောတာ၊ ဆင်ခြင်တဲ့ စိတ်ကလေးဟာ ၄-ကြိမ်လောက်နဲ့ပဲ ပြီးအောင်လုပ်လို့ရတယ်၊ သိပ်မြန်အောင် လုပ်ရတယ်လို့ ဆိုလိုတာ၊ အဲဒီ ရေမီးအစုံ တန်ခိုး ပြာဋိဟာပြတာကို "ယမကပြာဋိဟာ" ယမက ဆိုတာ အစုံဆိုတဲ့ အဓိပ္ပာယ်ရတယ်၊ ရေနဲ့မီး အစုံအစုံပြတယ်။

ဆိုပါစို့ ဥပမာ- လက်ယာဘက်မျက်လုံးတော်က မီးတွေ ပန်းထွက်နေရင် လက်ဝဲဘက်မျက်လုံးတော်က ရေတွေ ပန်းထွက်နေတယ်၊ လက်ယာဘက်နှာခေါင်းပေါက်က မီးတွေ ပန်းထွက်နေရင် လက်ဝဲဘက်နှာခေါင်းပေါက်က ရေတွေ ပန်းထွက်နေတယ်၊ အဲဒီမှာ ရေထွက်အောင်က အာပေါကသိုဏ်း ဝင်စားပြီးတော့ အဘိညာဉ်နဲ့ ဖန်ဆင်းရတယ်၊ မီးဖြစ်အောင်က တေဇောကသိုဏ်း ဝင်စားရတယ်၊ အာရုံချင်း မတူဘူး၊ လေ့ကျင့်ရတာ၊ အာပေါကသိုဏ်း လေ့ကျင့်မှ ရေထွက်လို့ရတယ်၊ တေဇောကသိုဏ်း လေ့ကျင့်မှ မီးဖန်တီးလို့ ရတယ်။

http://www.dhammadownload.com



အဲဒါကို စဉ်းစားကြည့်၊ လက်ယာဘက် မျက်လုံးထဲက ရေတွေ ပန်းထွက်နေတယ်၊ လက်ဝဲဘက် မျက်လုံးက မီးတွေ ပန်းထွက်နေတယ်၊ တစ်ပြိုင်နက်လို့ ထင်ရတယ်၊ လက်ယာဘက် မျက်လုံးထဲက မီးတွေပန်းထွက်နေတယ်၊ လက်ဝဲဘက်မျက်လုံးက ရေတွေ ပန်းထွက်နေတယ်၊ တစ်ပြိုင်နက်လို့ထင်ရတယ်၊ ဒီဇော စိတ်အစဉ်တွေဟာ ဘယ်လောက် လျင်မြန်တယ်ဆိုတာ စဉ်းစား ကြည့်ပေါ့၊ မြတ်စွာဘုရား တန်ခိုးပြာဋိဟာ ပြတဲ့အခါ အဲဒီအချိန် ကြည့်တဲ့သူက မျက်တောင်ကလေးတစ်ချက် ခတ်လိုက်တာနဲ့ တစ်ပြိုင်နက် ဘယ်နဲ့ညာ ရေမီး ပြောင်းသွားတယ်၊ အဲဒီလောက် ထူးဆန်းအံ့ဖွယ်တန်ခိုးတွေ ပြနိုင်တာဟာ အင်မတန်မှ အစွမ်း ထက်လို့ ခုနက စွမ်းရည်သတ္တိတွေနဲ့ လေ့ကျင့်ထားလို့တဲ့၊ သာမန် ဆိုရင် မရဘူးတဲ့နော်။

ရဟန္တာတွေထဲမှာလည်း ရှင်မောဂ္ဂလာန်တစ်ပါးပဲ တန်ခိုး နေရာမှာ ထက်ထက်မြက်မြက် အကုန်လုံး တစ်ပြိုင်နက် လုပ်လို့ ရတာ၊ ကျန်တဲ့ပုဂ္ဂိုလ်တွေက အဆင့်မမီဘူးတဲ့၊ ဒီလောက်ကြီး မသွက်ဘူးပေါ့၊ မသွက်လို့ရှိရင် ကိုယ်ခံရမယ်၊ အန္တရာယ်တွေ ကြီးတယ်ပေါ့၊ နန္ဒောပနန္ဒနဂါးမင်းဆိုတာ သာမန် မဟုတ်ဘူး၊ သူကလည်း အတော်အစွမ်းထက်တယ်၊ အစွမ်းထက်လို့ သူနဲ့ ယှဉ်ပြိုင်ပြီးတော့ လုပ်ရတယ်ဆိုတာ အင်မတန်မှ အန္တရာယ် ကြီးတယ်ပေါ့။

အဲဒါ စိတ်ကို အာရုံပေါ်မှာ လေ့ကျင့်ထားလိုက်တဲ့၊ သမထ ကျင့်စဉ်တွေရဲ့ အထွတ်အထိပ် အဘိညာဉ်ရောက်သွားတဲ့အခါ ဒီလိုဟာမျိုး ဖြစ်တယ်၊ မြတ်စွာဘုရားလက်ထက်က များစွာသော

http://www.dhammadownload.com



ပုဂ္ဂိုလ်တွေ ဒီလိုထူးခြားတဲ့ စွမ်းရည်သတ္တိတွေကို ရရှိကြတယ်၊ ဘာဖြစ်လို့ ရရှိကြသလဲဆိုရင် စိတ်ကို အာရုံနဲ့ လေ့ကျင့်လို့ပဲ၊ စိတ်ကို အာရုံနဲ့ လေ့ကျင့်ပေးသည့်အတွက်ကြောင့် ဒီလို အနေအထားမျိုးတွေ ရတာ။

စိတ်ဖြစ်စဉ်တွေက တစ်မျိုးစီပဲတဲ့၊ ခုနကလို ပရိကံ ဥပစာ အနုလုံ ဂေါတြဘူ ဈာန်အဘိညာဉ် ဆိုပြီးတော့ ဖန်ဆင်းပြီးတော့ ဒီလိုသွားတာနော်၊ ဒါက သမထကျင့်စဉ်အရ လေ့ကျင့်တာကို ပြောတာ။

တစ်ခါ စိတ်ကို ဝိပဿနာအာရုံနဲ့ လေ့ကျင့်ပုံက တစ်မျိုး၊ ဝိပဿနာအာရုံနဲ့ လေ့ကျင့်ရမယ်ဆိုရင် ရုပ်နာမ် ဓမ္မသင်္ခါရတွေ အပေါ်မှာ စိတ်ကို လေ့ကျင့်ရတယ်။ လေ့ကျင့်ပြီဆိုတဲ့အခါမှာ မျက်စိလည်း မှိတ်ထားရမယ်၊ နားလည်း ပိတ်ထားရမယ်၊ ဟုတ်လား? ပိတ်တယ်ဆိုတာ အဲဒီအာရုံတွေကို အာရုံမပြုရဘူး၊ ဝိပဿနာကျင့်စဉ်ဆိုတာ မနောဒွါရမှာ ပိုပြီးတော့ အလုပ်လုပ်လာရတယ်။

သို့သော် ဒွါရ ၅-ပါးက ဝင်လာတဲ့အာရုံကို မမှတ်ရဘူးလို့ ပြောတာ မဟုတ်ဘူးနော်၊ မျက်စိကမြင်တဲ့ အာရုံလည်း မှတ်လို့ရတယ်၊ ဒါက ရှေ့ပိုင်းက လုပ်တာတွေကို ပြောတာ၊ နားက ကြားရတဲ့ အသံတွေကိုလည်း မှတ်ရမယ်၊ ကြားရင် ကြားတယ် ကြားတယ်မှတ်၊ မြင်ရင် မြင်တယ် မြင်တယ်နဲ့မှတ်။ အဲဒီ မှတ်တယ်ဆိုတာ သတိနဲ့ သမ္မာဓိကို လေ့ကျင့်နေတာလို့ ခေါ်တယ်၊ အဲဒါဆိုရင် လူတွေက ကြားရင် ကြားတော့ ကြားလိုက်တာပဲ၊ တခြားတွေးချင်တွေးနေမှာပဲလေ၊ ကြားတယ်ဆိုတဲ့အပေါ်မှာ သိချင်မှ

http://www.dhammadownload.com



သိလိုက်တာ၊ ဒါကြောင့် "သတိမမူ ဂူမမြင်" ဆိုတာလေ၊ လူဆို တာက ကြားချင်မှ ကြားလိုက်တာ၊ တစ်ခါတစ်လေ အနီးနား ခေါင်းလောင်းတီးတာတောင်မှ ကြားချင်မှကြားလိုက်တာ၊ အတွေး လွန်နေရင် မကြားဘူး။

အဲဒါကြောင့်မို့ ဒွါရ ၆-ပါးမှာ ထင်လာတဲ့ အာရုံတွေကို မှတ်ရင်း မှတ်ရင်းနဲ့ နောက်ဆုံးကျတော့ မနောဒွါရမှာ ဝင်လာတဲ့ အာရုံနဲ့ အလုပ်လုပ်သွားတယ်၊ အလုပ် လုပ်သွားတဲ့အခါမှာ ရုပ်နာမ်ဓမ္မသင်္ခါရတွေရဲ့ သဘာဝလက္ခဏာ (Individual characteristic) ကို ကြည့်ရမယ်၊ နံပါတ် (၁) ရုပ်တရားရဲ့ သဘာဝ လက္ခဏာ, နာမ်တရားရဲ့ သဘာဝလက္ခဏာ၊ ပင်ကိုယ် အရှိ အတိုင်း၊ ဆိုပါစို့ - ဖဿဆိုရင် အာရုံနဲ့ ထိတွေ့တဲ့လက္ခဏာ ရှိတယ်၊ ပထဝီဆိုရင် မာတယ် ပျော့တယ်၊ အာပေါဆိုရင် ဖွဲ့စည်း တယ်၊ အရည်ဖျော်တယ်ဆိုတဲ့ ဒီလက္ခဏာတွေ၊ အဲဒီလက္ခဏာ တွေကို ကြည့်တယ်။

သဘာဝလက္ခဏာကို ကြည့်လိုက်ခြင်းအားဖြင့် ပထဝီ ကိုလည်း တွေ့တယ်၊ အာပေါကိုလည်း တွေ့တယ်၊ ဖဿကိုလည်း တွေ့တယ်၊ နာမ်တွေထဲက ဝေဒနာကိုလည်းတွေ့ပြီ ဆိုတဲ့အခါမှာ အဲဒီ သဘာဝလက္ခဏာတွေအပေါ်မှာ အလုပ်လုပ်ရင်း ထပ်ဆင့် တွေ့လာတာက ဘာတုန်းဆိုရင် - မမြဲတဲ့သဘော၊ မမြဲတဲ့ သဘောကို အရင်တွေ့လာပြီဆိုလို့ရှိရင် မမြဲတဲ့အရာတစ်ခုသည် ကျေနပ်စရာမကောင်းသောကြောင့် ဖြစ်မှု ပျက်မှုကြီးက အမြဲ နှိပ်စက်နေလို့ ဒုက္ခဆိုတဲ့သဘောကို တွေ့လာတယ်၊ ဒုက္ခဆိုတဲ့ သဘော တွေ့လိုက်တာနဲ့ တစ်ပြိုင်နက် အနတ္တ - ကိုယ်မပိုင်ဘူး,

http://www.dhammadownload.com



သူဟာသူဖြစ်နေတာ၊ ကိုယ်က အုပ်ချုပ်လို့မရဘူး ဆိုတဲ့ ကိုယ်မပိုင်တဲ့ အနတ္တသဘောကိုလည်း တွေ့လာတယ်။

အနိစ္စ ဒုက္ခ အနတ္တလို့ ဆိုတဲ့ လက္ခဏာတွေ တစ်ခုခုမြင်လိုက်တာနဲ့ တစ်ပြိုင်နက် ဝိပဿနာလမ်းကြောင်းပေါ် စတင်ရောက်သွားပြီလို့ မှတ်ရမယ်၊ ဒါလည်း စိတ်ကို အာရုံနဲ့ လေ့ကျင့်တာပဲ၊ ဝိပဿနာကျင့်စဉ်နဲ့ စိတ်ကို အာရုံနဲ့ လေ့ကျင့်လိုက်တာ၊ အကျယ်တော့ မပြောတော့ဘူး၊ အကျယ်ကတော့ ရိပ်သာတွေမှာ ဟောနေတာပဲနော်။

အဲဒီလို စိတ်ကို အာရုံနဲ့ လေ့ကျင့်ပေးလိုက်တဲ့အခါ ဉာဏ်စဉ်တွေဟာ တစ်ခုပြီးတစ်ခု တက်လာတယ်။ အသိဉာဏ်တွေ ထက်မြက်လာတယ်၊ သမာဓိစွမ်းအားတွေ ရင့်လာတယ်၊ ဉာဏ်စွမ်းအားတွေ ရင့်လာတယ်၊ နောက်ဆုံးကျတော့ သင်္ခါရတွေအပေါ်မှာ စိတ်တည်တည်ငြိမ်ငြိမ် ထားနိုင်ပြီး ချစ်ခြင်းမုန်းခြင်းဆိုတာ ကင်းသွားတယ်။ အဆင့်မြင့်သွားတဲ့ အသိဉာဏ်တစ်မျိုးဖြစ်တဲ့ သင်္ခါရုပေက္ခာဆိုတဲ့ ဉာဏ်ရသွားတယ်၊ သင်္ခါရုပေက္ခာဆိုတာ သင်္ခါရတွေအပေါ်မှာ လျစ်လျူရှုနိုင်တယ်၊ သင်္ခါရတွေအပေါ်မှာ စိတ်ပျက်ခြင်း၊ ငြီးငွေ့ခြင်း၊ မုန်းခြင်း၊ ချစ်ခြင်း ဆိုတာတွေ မရှိတော့ဘဲ သဘာဝကိုသိပြီး စိတ်တည်ငြိမ်မှုရလာပြီ၊ အဲဒီတည်ငြိမ်မှုရလာပြီ ဆိုတဲ့အချိန်မှာ ဘာတွေလာတုန်းဆိုရင်- စိတ်အစဉ်လေးက နောက်ဆုံးအဆင့် ရောက်လာပြီ ဆိုလို့ရှိရင် ဝိပဿနာကျင့်စဉ်နဲ့ လေ့ကျင့်လိုက်ရင် နောက်ဆုံး ရောက်လာမယ့်ဟာက ခုနက ပြင်ဆင်နေတဲ့ ပရိကံဆိုတဲ့ မဟာကုသိုလ်ဉာဏသမ္ပယုတ်ဇော စောမယ်၊ ဒုတိယဇောက ဥပစာ၊ တတိယ

http://www.dhammadownload.com



ဇောက အနုလုံ၊ စတုတ္ထဇောကျတော့ ဂေါတြဘူ ဆိုတာလေး လာပြီးလိုက်လို့ရှိရင် ဂေါတြဘူ လို့ ဆိုလိုက်တာနဲ့ တစ်ပြိုင်နက် သင်္ခါရတွေ မမြင်တော့ဘူး၊ ချုပ်သွားပြီ၊ သူယူလာတဲ့ အာရုံတွေ ဟာ ရှေ့ပိုင်းက သင်္ခါရတွေနဲ့ပဲစခန်းသွားနေတယ်၊ လူ့ရဲ့စိတ်ဟာ အကုန်လုံးသင်္ခါရတွေနဲ့ပဲ စခန်းသွားနေတာ။

အေး - ဂေါတြဘူ ရောက်တာနဲ့ တစ်ပြိုင်နက် သင်္ခါရတွေနဲ့ စခန်းမသွားတော့ဘူး၊ သင်္ခါရတွေ ငြိမ်းတာနဲ့ သွားတွေ့တယ်၊ သင်္ခါရဆိုတဲ့ အာရုံတွေ လွတ်သွားပြီတဲ့၊ လွတ်သွားတော့ နိဗ္ဗာန် ဆိုတဲ့ သင်္ခါရကင်းတဲ့ အာရုံတစ်ခု၊ အသစ်အဆန်းတစ်ခုကို လှမ်းမြင်လိုက်ရပြီ၊ အဲဒီဂေါတြဘူစိတ် ဖြစ်ပြီးတာနဲ့ တစ်ပြိုင်နက် ဂေါတြဘူက သတ်မှတ်ပေးတဲ့ နိဗ္ဗာန် အာရုံပေါ်မှာပဲ မဂ် စိတ် ကလေး ဖြစ်လိုက်တယ်။ လူ့ရဲ့သန္တာန်မှာ ဘဝသံသရာက အနုသယဓာတ်အနေနဲ့ ကိန်းနေတဲ့ ကိလေသာတွေဟာ အဆင့်ဆင့် ငြိမ်းသွားတယ်၊ သောတာပတ္တိမဂ်ဆိုရင် ဒိဋ္ဌိနဲ့ဝိစိကိစ္ဆာ ငြိမ်းသွားတယ်။

ဒါကြောင့်မို့ စိတ်ဖြစ်စဉ်ဟာ အဲဒီအတိုင်းပဲ- "ပရိကံ, ဥပစာ, အနုလုံ, ဂေါတြဘူ, သောတာပတ္တိမဂ်, သောတာပတ္တိဖိုလ်, သောတာပတ္တိဖိုလ်" ၂-ကြိမ်ဖြစ်ပြီးတဲ့အခါ ဇော ၇-ကြိမ်ပြည့်ရင် ချုပ်ငြိမ်းသွားတယ်။

နောက်တစ်ခါပြန်ဝင်စားရင် မဂ်ဆိုတာ မလာတော့ဘူး၊ ဖလသမာပတ် ဝင်စားရင် ဟောဒီ ဝိပဿနာနဲ့ပဲ သွားရမယ်။ ဒီဖိုလ်ကို ပြန်လိုချင်ပြီ, ဒီအဆင့်ကို ပြန်ရောက်ချင်တယ်ဆိုရင် ဝိပဿနာလမ်းကြောင်းက ထပ်လျှောက်၊ လျှောက်ရင် "ပရိကံ

http://www.dhammadownload.com



ဥပစာ အနုလုံ ဂေါတြဘူ (သို့မဟုတ်) ဝေါဒါန်ပြီးရင် ဖိုလ် ဖိုလ်" ဟော၊ ဖိုလ်စိတ်တွေနဲ့ချည်းပဲ တစ်နေ့လုံးနေတာ၊ ဖိုလ်ဆိုတာ နိဗ္ဗာန်ကို အာရုံပြုတာ၊ ပရိကံ၊ ဥပစာ၊ အနုလုံဆိုတဲ့ စိတ်တွေကတော့ သင်္ခါရအာရုံနဲ့ဖြစ်တာ။ ဂေါတြဘူ ဝေါဒါန်က သင်္ခါရ ချုပ်ငြိမ်းရာ နိဗ္ဗာန်အာရုံကိုယူပေးတယ်။ ဥပမာမယ် လမ်းကြောင်းကြီးတစ်ခုကို လျှောက်လိုက်တာ လမ်းဆုံးသွားတာနဲ့ တစ်ပြိုင်နက် ချိုင့်ကြီးတွေ့တာပဲ၊ ဘာမှမရှိတော့တာ တွေ့တာပဲ၊ သင်္ခါရအာရုံတွေပေါ်မှာ လျှောက်လှမ်းသွားရင်းနဲ့ သင်္ခါရတွေ ချုပ်ဆုံးသွားတဲ့နေရာကို တွေ့သွားတာ၊ အဲဒါ နိဗ္ဗာန်ပဲ၊ ခန့်မှန်းပြောဆိုတာ၊ ဟုတ်ကဲ့လား?

ဒါကြောင့်မို့လို့ "သင်္ခါရာနံ အပဝတ္တိမတ္တံ - သင်္ခါရတွေ မဖြစ်ဘဲနဲ့ သင်္ခါရတွေ ချုပ်ငြိမ်းသွားတဲ့နေရာက နိဗ္ဗာန်ပဲ" လို့ ဒီလိုပြောတာနော်၊ ရှေ့ပိုင်းက စိတ်တွေအားလုံးဟာ သင်္ခါရအာရုံနဲ့ စခန်းသွားနေတာ၊ သင်္ခါရအပေါ်မှာ တွေးနေတဲ့အတွေးနဲ့သွားပြီး နောက်ဆုံး အဲဒီသင်္ခါရအာရုံတွေဟာ တဖြည်းဖြည်းနဲ့ လျော့လျော့ သွားပြီးတော့ နောက်ဆုံး သင်္ခါရအာရုံတွေ ပျောက်သွားတယ်၊ သင်္ခါရမရှိတဲ့ အာရုံတစ်ခု ရသွားတယ်နော်၊ အဲဒါ ဖိုလ်စိတ်တွေနဲ့ တစ်နေကုန်နေရင်လည်း ဖိုလ်စိတ်တွေ ဖြစ်နေမှာပဲ ထိန်းထား နိုင်တယ်၊ အဲဒါ ဖလသမာပတ် ဝင်စားတယ်လို့ခေါ်တယ်။

အဲဒီအတိုင်းပဲ သောတာပန်ဖြစ်ပြီးရင် နောက် သကဒါဂါမ် ဖြစ်ဖို့အတွက် ဝိပဿနာကျင့်စဉ်ကို တိုးမြှင့်ရမယ်၊ သကဒါဂါမ် ဖြစ်ပြီးရင် အနာဂါမ်ဖြစ်ချင်ရင် ဝိပဿနာကျင့်စဉ်ကို တိုးမြှင့်ကျင့် ရမယ်၊ level ချင်း degree ချင်း မတူဘူး၊ အနာဂါမ်ဖြစ်ပြီးရင်

http://www.dhammadownload.com



ရဟန္တာဖြစ်ဖို့အတွက် ဝိပဿနာစွမ်းအားကို တိုးမြှင့်ရမယ်၊ တိုးမြှင့်တဲ့အခါ ရဟန္တာဖြစ်လောက်တဲ့ ဝိပဿနာစွမ်းအား ရလောက်ပြီဆိုလို့ရှိရင် အရဟတ္တမဂ် အရဟတ္တဖိုလ် ရောက်ပြီး နောက်ဆုံးမှာ ရဟန္တာထိအောင် ရောက်သွားတယ်။

ဒါတွေဟာ စိတ်ကိုအာရုံနဲ့လေ့ကျင့်ခြင်းလို့ ခေါ်တယ်နော်၊ စိတ်ကို လေ့ကျင့်လိုက်လို့ရှိရင် ဈာန်လည်း ရတယ်၊ မဂ်လည်း ရတယ်၊ ဖိုလ်လည်း ရတယ်။ အဲဒီလို လေ့ကျင့်ပြီးတော့ စိတ်ကို အာရုံနဲ့ လေ့ကျင့်သွားနိုင်မှသာလျှင် ဒါတွေရနိုင်တယ်၊ သာမန်အားဖြင့်ကတော့ မလေ့ကျင့်ဘူးဆိုလို့ရှိရင် ဒီ ကာမအာရုံတွေထဲမှာပဲ တစ်လည်လည် ဒီလို နေဦးမှာပဲတဲ့၊ ထွက်လမ်းဆိုတာ မရနိုင်သေးဘူး။

ဒါ့ကြောင့်မို့လို့ တရားချစ်ခင် သူတော်စင်ပရိသတ်အပေါင်းတို့သည် မိမိတို့ရဲ့ စိတ်ကလေးကို ထူးခြားဖို့ရာအတွက် အာရုံတစ်ခုခုနဲ့ ယှဉ်တွဲပြီး အပြစ်ကင်းတဲ့အာရုံပေါ်မှာ လေ့ကျင့်ခြင်းဖြင့် ဈာန်တရား မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားများကို ကိုယ်စီကိုယ်ငှ မျက်မှောက်ပြုနိုင်ကြပါစေ။



http://www.dhammadownload.com

## မှတ်တမ်း

သာသနာတော် သက္ကရာဇ် ၂၅၅၂-ခုနှစ်၊ ကောဇာ သက္ကရာဇ် ၁၃၇၀-ပြည့်နှစ်၊ တန်ခူးလဆန်း ၃-ရက်၊ ရန်ကုန်တိုင်း၊ စမ်းချောင်း မြို့နယ်၊ အောင်ချမ်းသာရပ်ကွက်၊ သီရိမင်္ဂလာလမ်း၊ ကံမြင့် ကျောင်းတိုက် ဓမ္မာရုံတွင် ဆင်ယင်ကျင်းပ ပြုလုပ်အပ်သည့် ညဥ့်ဦးယံ ဓမ္မသဘင်ဝယ် ကြည့်မြင်တိုင်မြို့နယ်၊ စလင်းလမ်း၊ အမှတ်(၄၈)နေ ဦးမျိုးနိုင်+ဒေါ်အုန်းအုန်းမြင့်၊ သား နေဝင်းထွန်း၊ ထက်မြတ်အောင် မိသားစုတို့၏ အမတဒါန ဓမ္မဒါနအဖြစ်ဖြင့် ဟောကြားအပ်သော "သတ္တဝါတို့၏ ၃၁-ဘုံအကြောင်း" တရား ဒေသနာတော် ဖြစ်ပါသည်။

http://www.dhammadownload.com

# အခန်း - ၇

## သတ္တဝါတို့၏ ၃၁-ဘုံအကြောင်း

ဒီကနေ့ အပိုင်းအားဖြင့် "ဝီထိမုတ်ပိုင်း"၊ အဘိဓမ္မတ္ထ-သင်္ဂဟကျမ်း ငါးနံပါတ် ဝီထိမုတ်ပိုင်းကိုပဲ ဘုံပိုင်းလို့ ရှေးတုန်းက ခေါ်ခဲ့ကြတယ်၊ ၃၁-ဘုံအကြောင်းနဲ့ ပတ်သက်ပြီး သိစရာ အချက်အလက်များရှိတယ်၊ သတ္တဝါတွေမျိုးစုံရှိတဲ့ ၃၁-ဘုံ အကြောင်း၊ ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူခဲ့တဲ့ ထိုထိုကျမ်းဂန်တွေမှာ ပါရှိတယ်၊ ၃၁-ဘုံက အဘိဓမ္မာကျမ်းမှာတင် ပါရှိတာ မဟုတ်ဘူး၊ မူလပရိယာယသုတ်မှာလည်း ဘုံတွေအကြောင်း ပါတာပဲ၊ တခြားသုတ္တန်တွေမှာလည်း ပါတယ်၊ အဘိဓမ္မာ ၇-ကျမ်းမှာ အပါအဝင်ဖြစ်တဲ့ 'ဝိဘင်္ဂ'လို့ ခေါ်တဲ့ ဝိဘင်းကျမ်းမှာလည်း ဒီဘုံနဲ့ သက်တမ်းတွေ အကြောင်း ရှင်းလင်းဖော်ပြထားတာရှိတယ်။

သို့သော်လည်း မြန်မာနိုင်ငံမှာတောင်မှ အချို့ပုဂ္ဂိုလ်တွေက ၃၁-ဘုံဆိုတာကို ငြင်းပယ်ချင်ကြတယ်၊ ဘာလို့ ငြင်းပယ်တာလဲ

http://www.dhammadownload.com



ဆိုတော့ အကြောင်းပြက မမြင်ရလို့တဲ့။ မြင်ရတာ လူတွေနဲ့ တိရစ္ဆာန်တွေပဲ မြင်ရတယ်၊ ကျန်တာတွေက မမြင်ရလို့၊ မမြင်ရလို့ မရှိစတမ်းဆိုရင် မမြင်ရတာတွေက အများကြီးပဲ၊ ဟုတ်ရဲ့လား၊ မမြင်ရဘဲနဲ့ ရှိနေတဲ့ဟာ အသံဆိုတာ မြင်ရရဲ့လား၊ "မမြင်ရပါဘုရား"၊ အေး - မမြင်ရဘူး၊ မမြင်ရပေမယ့်လို့ အရှိထဲ ထည့်ရတာတွေ လောကကြီးမှာ အများကြီးပဲ။

ဘုန်းကြီးတို့ ငယ်ငယ်တုန်းက တွေ့ဖူးတယ်၊ "၃၁-ဘုံဝါဒ ဗုဒ္ဓလက်မခံ" ဆိုပြီး ရေးထားတဲ့စာအုပ်။ အမှန်တော့ ဘုရားက လက်မခံတာ မဟုတ်ပါဘူး၊ သူ လက်မခံတာ၊ တကယ်ကတော့ ရေးသင့်တာ "၃၁-ဘုံဝါဒ ကျွန်ုပ် လက်မခံ" ဆိုရင်တော့ ကောင်းတာပေါ့နော်၊ ဘုရားနာမည်ကို အလွဲသုံးစားလုပ်တယ်လို့ ဒီလိုပြောရမှာ။

အေး - တော်တော်များများက တခြားနိုင်ငံတွေမှာလည်း Buddhism "ဗုဒ္ဓဝါဒ" လို့ ခေါင်းစဉ်တပ်ပြီး ရေးလိုက်တဲ့အခါ ကျတော့ သူတို့အယူအဆတွေချည်းပဲ ရေးကြတယ်၊ အဲဒါမျိုးတွေ တော်တော်များများ တွေ့နေရတယ်၊ သတိထားစရာ ကောင်းတာ ပေါ့နော်၊ ရိုးသားဖြောင့်မတ်ဖို့ လိုအပ်တယ်၊ ကိုယ်မကြိုက်တာနဲ့ မရှိဘူးလို့ ပြောလို့မရဘူးတဲ့။

ကိုယ်မမြင်ရလို့ ပြောစတမ်းဆိုလို့ရှိရင် နှစ်ပေါင်း ၂၅၀၀-ကျော်က ပွင့်ခဲ့တဲ့ဘုရားလည်း ကိုယ်မြင်ရတာမှ မဟုတ်ဘဲကိုး၊ မမြင်ရလို့ လက်မခံဘူးဆိုရင် လက်မခံရမယ့် အကြောင်းတွေ အများကြီးပဲ၊ ဗိုက်ထဲနေတုန်းက ကိုယ့်အဖေလည်း ကိုယ်မြင်ခဲ့တာမှ မဟုတ်ဘဲနဲ့၊ အပြင်ရောက်မှ ဘေးကလူတွေက အဖေ

http://www.dhammadownload.com



လို့ ပြောလို့ ကိုယ်လက်ခံနေကြရတာ၊ ဟုတ်တယ်မို့လား၊ အေး ၃၁-ဘုံဝါဒ ဗုဒ္ဓလက်မခံ ဆိုပြီး အရင်တုန်းက စာအုပ်တစ်အုပ် မြန်မာပြည်မှာ ထွက်ဖူးတယ်၊ တကယ်ကတော့ သူလက်မခံတာပါ။

စာပေကျမ်းဂန်မှာ ကြည့်မယ်ဆိုရင် ထေရဝါဒပိဋကတ် သံဂါယနာ ၆-တန်က အသိအမှတ်ပြုလက်ခံထားတဲ့ ကျမ်းဂန်တွေ ထဲမှာ ၃၁-ဘုံဆိုတာ အတိအလင်း ပါရှိပြီးသားဖြစ်တယ်၊ ထိုထို ဘုံတွေရဲ့အကြောင်းကို ရေးသားထားတာ အကြောင်းအားလျော် စွာပေါ့နော်၊ တချို့ကလည်းပဲ လူတွေကို "ဘုံပိုင်းနဲ့ မြောက်တယ်" လို့ ဒီလိုထင်ကြသေးတယ်၊ ဘုံဆိုတာ သူ့ဟာသူရှိတာ၊ မြောက် စရာအကြောင်းလည်း မဟုတ်ဘူးနော်၊ "ဘုံဆိုတာ သတ္တဝါတို့ရဲ့ ဖြစ်ရာဌာန"ကို ပြောတာလေ၊ "ဘူမိ" ဆိုတဲ့ ပါဠိစကားလုံးကနေ လာတယ်။ လူသတ္တဝါတွေရဲ့ ဖြစ်ရာနေရာကို လူ့ဘုံလို့ ဒီလို ခေါ်တာ၊ လူသတ္တဝါတွေနဲ့ မတူညီတဲ့ အခြားသတ္တဝါတွေ မြောက်မြားစွာရှိတယ်ဆိုတာ - ဒါက မမြင်ရပေမယ့်လို့ ရှိနိုင် တယ်ဆိုတာ အများကြီး လက်ခံရတယ်။

အဲဒီလို သတ္တဝါတွေ ရှိတယ်ဆိုတာ စိတ်ကူးယဉ်ပြီး ပြောတာတော့ မဟုတ်ဘူး၊ ထိုသတ္တဝါတွေဟာ ဘယ်ကံကြောင့် အဲဒီဘုံ ရောက်တယ်၊ ထိုဘုံရဲ့ ပဋိသန္ဓေစိတ်က ဘာတွေလဲ၊ ထိုဘုံမှာ ဘာတွေဖြစ်သလဲဆိုတာ တိတိလင်းလင်း ဟောထားတာ၊ စိတ်ကူးပြီးတော့ ဘယ်ဘုံမှာရှိတယ်လို့ ပြောတာတင်မှ မဟုတ်ဘဲ၊ အဲဒီဘုံမှာ သတ္တဝါတွေ ဘာကြောင့်ဖြစ်တယ်ဆိုတာကို အတိ အကျ အကြောင်းနဲ့အကျိုးနဲ့ သေသေချာချာ ဟောထားတာ

http://www.dhammadownload.com



ဖြစ်သည့်အတွက်ကြောင့် သာမန်မှန်းသန်းရမ်းပြီး ပြောတာမျိုး မဟုတ်ဘူး။

မြတ်စွာဘုရားသခင်ကိုယ်တော်မြတ်က ဟောတယ် "**သာမံ ဉာတံ၊ သာမံ ဝိဒိတံ**" "ငါကိုယ်တိုင်သိတာတဲ့ ငါကိုယ်တိုင် သိပြီးတာကို ဟောတာ" "သူများဆီက ကြားပြီးဟောတာ မဟုတ်ဘူး" တဲ့၊ ၃၁-ဘုံနဲ့ ပတ်သက်ပြီး၊ ဘုံတွေနဲ့ ပတ်သက်ပြီး မြတ်စွာဘုရားက ငါကိုယ်တိုင်သိလို့ ငါကိုယ်တိုင်မြင်လို့ ဟောတာလို့။

ဒါဖြင့် ဘုရားက ဘာနဲ့ မြင်တာတုန်းလို့မေးရင် မြတ်စွာဘုရားမှာ ဒိဗ္ဗစက္ခု ဆိုတဲ့ အင်မတန်အစွမ်းထက်တဲ့ စိတ်ကို အာရုံနဲ့ လေ့ကျင့်လိုက်သည့်အတွက်ကြောင့် ထူးခြားတဲ့ အမြင် တစ်မျိုးကို ရရှိထားတယ်၊ သမာဓိစွမ်းအားနဲ့ အဲဒီ ဒိဗ္ဗစက္ခုဆိုတဲ့ အဘိညာဉ်ရလိုက်တာနဲ့ တစ်ပြိုင်နက် ထိုဒိဗ္ဗစက္ခုဉာဏ်ရဲ့ အပွား ဖြစ်တဲ့ "ယထာကမ္မူပဂဉာဏ်"၊ ဘယ်အလုပ်လုပ်ရင် ဘယ်ကံ ဖြစ်မယ် ဆိုတာကို မြတ်စွာဘုရားသခင် ကိုယ်တော်မြတ်က ကြည့်ရင် မြင်ရတယ်ပေါ့၊ အကြောင်းတရားတွေကို ကြည့်ပြီးတော့ မြင်တာ။

ဒီကနေ့ခေတ် ကြည့်လိုက်ရင် လူတိုင်းဟာ တူညီတဲ့ အနေ အထား မရှိဘူး၊ အလုပ်အကိုင်တွေက ကွဲပြားခြားနားနေတယ်၊ အလုပ်အကိုင်လို့ ဆိုတဲ့နေရာမှာ အသက်မွေးဝမ်းကျောင်း လုပ်တာကိုတင် ပြောတာမဟုတ်ဘူး၊ လူတွေရဲ့လုပ်ကိုင်မှု စိတ်နေ စိတ်ထားတွေဟာ ကွဲပြားခြားနားမှု ရှိတယ်တဲ့၊ ဘယ်လို ကွဲပြား ခြားနားမှု ရှိတာတုန်းဆိုရင် တချို့က သူများအသက်ကို သတ် တယ်, တချို့က သူများအသက်သတ်ခြင်းမှ ရှောင်တယ်၊ မတူညီ

http://www.dhammadownload.com



တဲ့ အလုပ်တွေ၊ တချို့က သူများဥစ္စာကို ခိုးတယ်, လိမ်လည် လှည့်ဖျားပြီးတော့ ယူတယ်၊ တချို့က သူများဥစ္စာဆို လက်ဖျားနဲ့မှ မတို့ဘူး၊ တချို့က သူများသားမယားစော်ကားတယ် ပြစ်မှားတယ်, တချို့က စိတ်ကူးထဲတောင် မထည့်ဘူး၊ မတူညီတဲ့ အလုပ်တွေ မရှိဘူးလား၊ မတူညီတဲ့အလုပ်တွေ ရှိနေတာကိုတော့ သေချာ မြင်ရတာပဲလေ၊ ကိုယ့်ရဲ့ ပတ်ဝန်းကျင်မှာလည်း ရှိတယ်။

အဲဒါလိုပဲ နှုတ်နဲ့ပတ်သက်လာရင်လည်း တချို့က လိမ်ပြော တယ်၊ တချို့က မှန်တာကိုသာ ပြောတယ်၊ တချို့က တစ်ယောက် နဲ့တစ်ယောက် မတည့်အောင် ကုန်းတိုက်တယ်၊ မတည့်အောင် ပြောတယ်၊ ကုန်းချောတယ်၊ တချို့ကျတော့ မတည့်တဲ့လူကို တည့်အောင် ဖေးဖေးမမ ပြောတယ်၊ ညီညွတ်အောင် စေ့စပ် ပေးတယ်၊ တချို့ကျတော့ ဆဲတတ်တယ်၊ တချို့က မဆဲတတ်ဘူး၊ တချို့က အကျိုးမရှိတဲ့ စကားတွေ၊ မဟုတ်တန်းတရားတွေ လျှောက်ပြောတယ်၊ တချို့က မပြောတတ်ဘူး၊ အပြောနဲ့ ပတ်သက်လို့လည်း လူတွေဟာ တစ်ယောက်နဲ့တစ်ယောက် တူညီမှုရှိရဲ့လား၊ မရှိဘူး ဒီအချက်ကတော့ ထင်ရှားနေတာပဲလေ။

နောက်တစ်ခု စိတ်နေစိတ်ထား ကြည့်ဦးမလား၊ တချို့က သူများပစ္စည်း ကိုယ့်ပစ္စည်း ဖြစ်လိုမှုဆိုတဲ့ လောဘဇောက အမြဲ တိုက်နေတယ်၊ သူများပစ္စည်း ကိုယ့်ပစ္စည်းဖြစ်ချင်တဲ့ အဘိဇ္ဈာ တရားတွေ လွှမ်းမိုးနေတယ်၊ တချို့ကျတော့လည်း သူများပစ္စည်း ကိုယ့်ပစ္စည်းဖြစ်ဖို့ နေနေသာသာ လှည့်တောင် မကြည့်ဘူး၊ သူများ ပစ္စည်းတွေကို သွားရည်မကျဘူး၊ အဲလိုပုဂ္ဂိုလ်မျိုးတွေလည်း ရှိတာ ပဲ၊ တချို့ပုဂ္ဂိုလ်ကျတော့ ကိုယ့်ရဲ့ပတ်ဝန်းကျင်က ပုဂ္ဂိုလ်တွေ

http://www.dhammadownload.com



ပျက်စီးသွားတာကိုမြင်ချင်တယ်၊ တချို့က ကြီးပွားချမ်းသာတာကို မြင်ချင်တယ်၊ ကံကံ၏အကျိုးကို မယုံကြည်တဲ့ပုဂ္ဂိုလ်တွေ ရှိသလို၊ ကံကံ၏အကျိုးကို လက်ခံယုံကြည်ထားတဲ့ ပုဂ္ဂိုလ်တွေလည်း ရှိတယ်ဆိုတော့ လူတွေကျင့်သုံးနေတဲ့ ဒုစရိုက် သုစရိုက် ဆိုတာ တွေကိုကြည့်။ ကိုယ့်ရဲ့ပတ်ဝန်းကျင် ကိုယ့်လူနေအသိုင်းအဝိုင်း ထဲမှာကြည့်။ အခုလို ၂-မျိုး ၂-စား ကွဲပြားခြားနားနေတာကို မတွေ့ရဘူးလား၊ ဒီပုဂ္ဂိုလ်တွေဟာ သေသည့်အခြားမဲ့မှာ တူညီတဲ့ ဘဝ ရောက်နိုင်ပါ့မလား၊ (မရောက်နိုင်ပါဘူးဘုရား)၊ အဲဒါကို ထောက်ထားလို့ရှိရင် သူတို့ကံနဲ့ သူတို့ **"ယထာ ကမ္မံ ဂတော"** ကံအားလျော်စွာ ဖြစ်ရမယ်ဆိုတဲ့ နေရာမျိုး ရှိရမှာပေါ့။

အဲဒီတော့ "ဘုံဆိုတာဟာ ကံတရားရဲ့ အကျိုးပေးရာဌာန" တွေပဲ၊ ကံတရားက မျိုးစုံသလို သတ္တဝါတွေကလည်း မျိုးစုံပဲ၊ ထို မျိုးစုံတဲ့သတ္တဝါတွေရဲ့ တည်ရာဌာနဆိုတဲ့ ဘုံတွေကလည်း မျိုးစုံ တယ်၊ တစ်ဘုံတည်းဆိုတာ မဖြစ်နိုင်ဘူးတဲ့၊ ဘာဖြစ်လို့တုန်း ဆိုရင် မတူညီတဲ့လုပ်ရပ်တွေနဲ့ ရှိနေတဲ့ပုဂ္ဂိုလ်တွေရဲ့ ဘဝနိဂုံး ရောက်ရာဘဝ destination ဟာ ဘယ်နည်းနဲ့မှ မတူနိုင်ဘူး၊ မီးရထားကြီး ရန်ကုန်ကနေ စီးသွားတယ်၊ မန္တလေးသွားတယ်၊ လမ်းမှာ ဘူတာတွေ ဆိုက်ပြီးတော့သွားတယ်၊ တချို့က လမ်း ဘူတာတွေမှာ ဆင်းသွားတယ်၊ မန္တလေးထိ သွားတဲ့လူတွေ မဟုတ်ဘူး၊ အဲဒါမျိုးလိုပဲ - ကံမျိုးစုံ လုပ်ထားတော့ လူတွေလည်း ဘဝခရီးလမ်းတွေက အမျိုးကို စုံနေတာပဲ၊ အဲဒီမျိုးစုံနေတာတွေ ကိုပဲ ဂတိ ၅-ပါးလို့ အကြမ်းဖျင်းအားဖြင့် ပြောမယ်ဆိုရင် ဂတိ ၅-မျိုး၊ Destination လို့ခေါ်တယ်၊ ခရီးဆုံး ၅-မျိုးလို့ ဒီလိုဆိုတယ်။

http://www.dhammadownload.com



ကမ္ဘာလောကကြီးကို ကြည့်မယ်ဆိုရင် လူတွေ ခရီးသွားနေကြတာ၊ ကိုယ့်ဦးတည်ချက်နဲ့ ကိုယ်သွားနေကြတာ၊ ဘယ်ပုဂ္ဂိုလ်ဘယ်သွားနေတယ်ဆိုတာဟာ သူကိုင်ထားတဲ့ လက်မှတ်ကို ကြည့်လို့ရှိရင် သိတာပေါ့၊ ရထားစီးသွားတဲ့ပုဂ္ဂိုလ်တွေ ရှိသလို ကားနဲ့စီးသွားတဲ့ပုဂ္ဂိုလ်တွေလည်းရှိတယ်၊ တခြားနည်းလမ်းနဲ့ လေယာဉ်ပျံနဲ့သွားတဲ့ ပုဂ္ဂိုလ်တွေလည်း ရှိတယ်၊ အဝင်အထွက်များတဲ့ နိုင်ငံတကာ လေဆိပ်ကြီးတွေမှာ ကြည့်မယ်ဆိုရင်- တစ်မိနစ် တစ်စင်းလောက် လေယာဉ်ပျံကြီးတွေ ဆင်းနေတာ၊ အဲဒီ တစ်မိနစ်တစ်စင်းလောက် ဆင်းနေတဲ့ လေယာဉ်ပျံကြီးတွေနဲ့ လူတွေသွားလာနေကြတာပဲ၊ အကုန်လုံး သွားလာနေတဲ့ လူတွေဟာ destination အားလုံးဟာ တူညီကြတာ မဟုတ်ဘူး၊ သူတို့ကိုင်ဆောင်ထားတဲ့ လက်မှတ်အတိုင်း သွားနေကြတာ။

လူ့ဘုံလူ့ဘဝ ရောက်လာတယ်ဆိုတဲ့ အခါမှာလည်းပဲ ကံဆိုတဲ့ လက်မှတ်တွေ ဝယ်ထားပြီးတော့ ထိုကံရှိရာ ကံအကျိုးပေးရာဘုံကို ဦးတည်ပြီးတော့ သွားနေကြတာ၊ အဲဒီလို သွားနေတာကို မြတ်စွာဘုရားက မှန်းဆပြီးတော့ ဟောတာမဟုတ်ဘူး၊ ခုနကပြောခဲ့တဲ့ ဒိဗ္ဗစက္ခုမှာပါတဲ့ "ယထာကမ္မူပဂအဘိညာဉ်" ဆိုတဲ့ ဉာဏ်တော်ကြီးနဲ့ တစ်လောကလုံးကို ခြုံငုံပြီးတော့ ကြည့်လိုက်တဲ့အခါမှာ အေး - ဒီလူကတော့ဖြင့် ဒုစရိုက်တွေလုပ်နေတယ်၊ ဒီလူရဲ့ သွားရာလမ်းက ဘယ်မှာလဲဆိုတာကို မြတ်စွာဘုရားက မြင်နေတယ်။

လမ်းကြောင်းကြီး ၅-သွယ်တဲ့၊ နေရာဌာနတစ်ခုမှာ လမ်းကြောင်းကြီး ၅-သွယ် ရှိတယ်၊ အဲဒီလမ်းကြောင်းကြီး ၅-သွယ်ထဲ

http://www.dhammadownload.com



မှာ တစ်ခုသောလမ်းဆုံမှာ **မီးကျီးတွင်းကြီး** ရှိတယ်၊ မြတ်စွာဘုရားက မြင်တယ် - ဒီလူတစ်ယောက်ကတော့ မီးကျီးတွင်းဆီ သွားတဲ့ လမ်းပေါ် လျှောက်နေပြီ၊ လမ်းဆုံးရင်တော့ သူ မီးကျီးတွင်းထဲ ကျပြီးတော့ ဒုက္ခရောက်မှာပဲလို့ မြင်တယ်၊ မြင်တဲ့အတိုင်းပဲ ဒီလူ လျှောက်သွားနေတာ၊ လမ်းလည်းဆုံးရော မီးကျီးတွင်းကြီးထဲ ကျပြီးတော့ ဒုက္ခရောက်နေတယ်၊ အဲဒါ ဘယ်လို ပုဂ္ဂိုလ်မျိုးတုန်း ဆိုတော့ **ငရဲဘုံ** ရောက်သွားတဲ့ပုဂ္ဂိုလ်၊ ဩော် . . . မကောင်းမှု ဒုစရိုက်တွေလုပ်နေတဲ့ ပုဂ္ဂိုလ်တစ်ယောက်ကို မြတ်စွာဘုရားက ဒီလူဟာ မီးကျီးတွင်းကြီးရှိရာကို ဦးတည်သွားနေပြီလို့ ဒီလို မြင်တာ၊ အဲဒါက "နိရယဂတိ" ဆိုတဲ့လမ်း။

အဲဒီလို မြတ်စွာဘုရားက ဂတိ ၅-ပါးနဲ့ ပတ်သက်ပြီးတော့ မဇ္ဈိမပဏ္ဏာသပါဠိတော်မှာ မဇ္ဈိမနိကာယ်မှာ ဥပမာတွေနဲ့ ဟောထားတာရှိတယ်၊ ထို့အတူပဲ နောက်တစ်လမ်းက "တိရစ္ဆာန-ဂတိ" ဆိုတဲ့လမ်း၊ အေး - ဒီလူတစ်ယောက်ကတော့ ဒီလမ်းပေါ် လျှောက်နေပြီ၊ အဲဒီလမ်းရဲ့အဆုံးမှာ ဘာရှိတုန်းဆိုရင် အင်မတန် နက်လှတဲ့ **မစင်တွင်းကြီး**ရှိတယ်၊ လူတစ်ယောက်ဟာ ဒီလမ်း အတိုင်း လျှောက်သွားရင်တော့ မစင်တွင်းကြီးထဲ ရောက်တော့ မှာပဲလို့ မြတ်စွာဘုရားက ဒိဗ္ဗစက္ခုအဘိညာဉ်နဲ့ မြင်တယ်။ ဒီလူ လုပ်နေတဲ့အလုပ်တွေဟာ နောက်ဆုံး အဲဒီလိုနိဂုံးချုပ်သွားမှာပဲလို့ ကိုယ်တော်မြတ်က ယထာကမ္မူပဂအဘိညာဏ်နဲ့ သိနေတာ၊ သိမြင်တဲ့အတိုင်းပဲ ပုဂ္ဂိုလ်ဟာ နောက်ဆုံးမှာ မစင်တွင်းထဲ ကျသွား တယ်၊ ဒါက ဘယ်လိုပုဂ္ဂိုလ်တွေလဲဆိုရင် **တိရစ္ဆာန်**ဖြစ်သွားတဲ့ ပုဂ္ဂိုလ်တွေ။

http://www.dhammadownload.com



လွန်ခဲ့တဲ့ အနှစ် ၄၀-၅၀ လောက်တုန်းက လူတွေရဲ့ စိတ်ဓာတ်က အေးချမ်း ငြိမ်သက်မှုရှိသော်လည်း ဒီကနေ့ခေတ်မှာ ပိုပြီးတော့ ပူလောင်လာတယ်၊ လောဘတွေ ပိုများလာတယ်၊ ဒေါသတွေ ပိုများလာတယ်၊ ဘုန်းကြီးတို့ ဘဝမှာ မကြားဖူးတဲ့ အခြေအနေဆိုးတွေ အခုကြားရတယ်၊ အားလုံးသိကြတဲ့အတိုင်း ဒီကနေ့ခေတ်မှာ ပေါ်လာတာ၊ Terrorism တဲ့၊ အကြမ်းဖက်ဝါဒ တွေ terrorist အကြမ်းဖက်သမားတို့၊ အကြမ်းဖက်သမားဝါဒတို့ ဆိုတာ ဘယ်သူ့ကိုမှ မရှောင်ဘူး၊ တွေ့သမျှ လူမှန်သမျှကို ဒုက္ခ ပေးတဲ့ဝါဒမျိုး ဖြစ်လာတယ်၊ ဟိုးရှေးတုန်းက ဒီလိုဟာမျိုး မဟုတ် ဘူး၊ လူအချင်းချင်းမုန်းလို့ သတ်ချင်သတ်လိမ့်မယ်၊ ရာဇဝတ်မှု ကျူးလွန်ပြီး သတ်ချင်သတ်လိမ့်မယ်၊ တစ်စုံတစ်ခုသောအကြောင်း ရည်ရွယ်ချက်နဲ့ လုပ်တာဖြစ်မယ်၊ အခုကျတော့ အဲလိုမဟုတ်ဘူး၊ ကိုယ်သိတဲ့လူရော မသိတဲ့လူရော၊ အပြစ်ကင်းသူရော အပြစ် မကင်းသူရော အားလုံးရောပြီးတော့ ဘယ်သူသေသေ စိတ်ဓာတ် တွေ ဝင်လာတယ်ပေါ့၊ **"တိဗ္ဗော အာဃာတော"** အလွန်ပြင်းထန် တဲ့ အာဃာတတွေတဲ့၊ ဒီလိုပြောရမှာပေါ့။

လူတွေရဲ့စိတ်ထဲမှာ အဲဒါတွေ ကိန်းအောင်းလာတယ်၊ ကိန်းအောင်းလာတာဟာ တဖြည်းဖြည်း များလာတဲ့သဘော ရှိတယ်၊ လျော့သွားတယ်လို့ မရှိဘူးနော်၊ တစ်နေရာ တစ်နေရာမှာ လျော့ပါးနေတာ ရှိကောင်းရှိမယ်၊ နေရာတိုင်းမှာ လုံခြုံရေးဆိုတာ အတော်တင်းကြပ်လာတယ်၊ လေယာဉ်ပျံနဲ့ ခရီးသွားတဲ့ပုဂ္ဂိုလ်တိုင်း ဒါကို သတိထားမိလိမ့်မယ်၊ လေယာဉ်ပျံနဲ့ ခရီးသွားလို့ရှိရင် check in ဆိုတာ အမျိုးမျိုးပါပဲ၊ ဟိုလို check ဒီလို check နဲ့၊ တချို့

http://www.dhammadownload.com



နိုင်ငံများဆိုလို့ရှိလျှင် စက်နဲ့ check နဲ့ လုပ်လိုက်လို့ရှိလျှင် အကုန် လုံး အဝတ်အစားဘာညာ၊ မိမွေးဖမွေးတိုင်း ရုပ်ပုံထင်အောင် စက်ကိရိယာတွေ တီထွင်ပြီးတော့ထားတယ်၊ အဲဒီစက်တွေတောင် တပ်ဆင်ပြီးတော့ ထားတယ်။

လေယာဉ်ပျံနဲ့ ခရီးသွားရာမှ လုံခြုံရေးတွေက ပိုပြီးတော့ တင်းကြပ်လာတယ်ဆိုတာကိုက အန္တရာယ်တွေ များလာတယ် ဆိုတဲ့ အဓိပ္ပာယ်ကို ဖော်ပြနေတယ်၊ မြေပြင်လမ်းလျှောက်ဦး မလား၊ မြေပြင်လမ်းလျှောက်မယ် ဆိုလို့ရှိရင် ဟိုနယ်ခြားဒေသ အန္တရာယ်ရှိတဲ့နေရာတွေမှာ ဆိုလို့ရှိရင် မိုင်းဗုံးတက်နင်းမိမှာ အလွန်ကြောက်နေရတဲ့ အနေအထားမျိုး၊ ကောင်းကင်က သွားလည်း အန္တရာယ်မကင်းဘူး၊ မြေပြင်က လမ်းလျှောက်လည်း အန္တရာယ် မကင်းဘူး၊ ရေထဲသွားပြန်တော့လည်း အန္တရာယ် မကင်းဘူး၊ အဲတော့ လူ့လောကကြီးဟာ လောဘ ဒေါသ မောဟ တွေ ကြီးမားလာလို့ ကြီးထွားလာလို့ ဆုတ်ယုတ်ပျက်ပြားလာတယ် ဆိုတာ သေချာတဲ့ အချက် ၁-ခုပဲ။

လက်တွေ့မျက်မြင်နဲ့ ဆင်ခြင်သုံးသပ်ပြီးတော့ ကြည့်မယ် ဆိုလို့ရှိရင် နှလုံးရဲ့အေးချမ်းမှုဆိုတာ အင်မတန်မှ နည်းလာတယ်၊ လူ့လောကမှာ လူတွေဟာ ယှဉ်ပြိုင်မှုတွေ များလာတယ်၊ စီးပွား တိုးတက်လာလေလေ ယှဉ်ပြိုင်မှုတွေ များလာလေလေ၊ အင်္ဂလိပ် လိုတော့ tension ခေါ်တာပေါ့၊ တိုးတက်ကြီးထွားလာလို့ရှိရင် tension တွေ ပိုများလာတယ်၊ မြန်မြန်တိုးတက်လေလေ tension များလေလေ၊ စီးပွားဥစ္စာ တိုးတက်လေလေ tension

http://www.dhammadownload.com



များလေလေပဲ၊ လူတွေဟာ ပိုပြီးတော့ ငြိမ်းချမ်းသွားတာ မဟုတ်ဘူး။

နဂိုကတော့ ထင်ကောင်း ထင်လိမ့်မယ်၊ မတောင့်မတ မကြောင့်မကျ စီးပွားဥစ္စာတွေ ဖြစ်ထွန်းလို့ ပိုက်ဆံတွေ များများရှိရင် ချမ်းချမ်းသာသာ နေရမယ်၊ စိတ်အေးလက်အေး နေရမယ်လို့ ထင်ကောင်းထင်မယ်၊ မဟုတ်ဘူး၊ ချမ်းသာတဲ့သူက ပိုပြီးတော့ tension များတယ်နော်၊ သူတောင်းစားကမှ ခွက်ကလေးချပြီး လမ်းဘေးမှာအိပ်လို့ ရသေးတယ်၊ ပိုက်ဆံချမ်းသာတဲ့သူက ဘယ်အိပ်ရဲမလဲ၊ အဲဒီနေရာမျိုး။ tension ပိုများလာတာပေါ့။ စီးပွားရေး တိုးတက်လာတာဆိုရင် တစ်ဖက်ကနေပြီးတော့ ကြောင့်ကြစိတ်တွေ ဆိုတာဟာ ပူပန်တတ်တဲ့ စိတ်တွေပဲ၊ ကြောင့်ကြတယ် ပူပန်တယ်ဆိုတာ ဘာပြောတာတုန်း ဆိုလို့ရှိရင် ဒေါမနဿကိုပြောတာ၊ ဒေါမနဿဆိုတဲ့ သဘောတရားဟာ ဒေါသမူစိတ်မှာ ယှဉ်ပြီးတော့ဖြစ်တယ်၊ ဒေါသနဲ့ ယှဉ်တွဲပြီးတော့ လာတဲ့ ပူပန်ကြောင့်ကြမှုတစ်ခုဖြစ်တယ်၊ ဒေါသတွေ ဖြစ်နေတယ်။

လူတွေက စိတ်ဆိုးမှ ဒေါသဖြစ်တယ် ထင်နေတာ၊ မဟုတ်ဘူး၊ ကြောက်ရင်လည်း ဒေါသပဲ၊ မုန်းတီးတာတင် ဒေါသမဟုတ်ဘူး၊ စိတ်ဆိုးတာတင် ဒေါသမဟုတ်ဘူး၊ ကြောက်တာလည်း ဒေါသပဲ၊ ဒါကြောင့်မို့ hatred, fear, anger လို့၊ ဒေါသနဲ့ ပတ်သက်ပြီးတော့ အင်္ဂလိပ်လို ပြန်ကြတာ၊ hatred တစ်ခုတည်းတင် ဒေါသ မဟုတ်ဘူး၊ fear လည်း ဒေါသပဲ၊ စိုးရိမ်ကြတယ်၊ ကြောက်လန့်ကြတယ်၊ ဒေါသနဲ့ယှဉ်တွဲပြီးတော့ ဖြစ်ပေါ်လာတဲ့ စိတ်အခြေအနေတွေ၊ အဲဒီ စိတ်အခြေအနေတွေ ဖြစ်ပေါ်လာ

http://www.dhammadownload.com



လျှင် peaceful mind ဆိုတာ ဆုံးရှုံးသွားတယ်၊ အဲဒီတော့ ခန္ဓာကိုယ်က ထွက်လာတဲ့ chemical တွေ ဓာတ်ငွေ့တွေကလည်း ဘယ်အေးချမ်းနိုင်တော့မလဲ။

မအေးချမ်းသည့်အတွက်ကြောင့် ကမ္ဘာကြီးဟာ ပိုပိုပြီး ပူလာတယ်၊ ဘယ်သူ့ကြောင့် ပူတာတုန်း၊ လူတွေပူလို့ ပူတာ နော်၊ လူတွေ ပူလား မပူလားဆို တစ်ယောက်ထိုင်သွားတဲ့နေရာ သွားပြီး ထိုင်ကြည့်ပါလား၊ ပူနေမှာပဲ၊ သေချာတယ်၊ ဒါကြောင့်မို့ ဒါတွေက ကျိုးကြောင်းအနေနဲ့ ဆက်သွယ်ပြီးတော့နေတာ၊ **'ကမ္မပစ္စယ ဥတုသမုဋ္ဌာန်'** ကကို အခြေခံပြီးတော့ ဥတုရာသီ တွေက ပြောင်းလဲနေတယ်၊ ရာသီဥတုပေါ် မူတည်ပြီး အာဟာရ ဓာတ်တွေက ပြောင်းလဲနေတာ၊ အာဟာရဓာတ်တွေပေါ် မှီနေ ရတဲ့ လူရဲ့သက်တမ်းဟာ ဆုတ်ယုတ်မှု၊ တိုးတက်မှုဆိုတာ ဖြစ်တာ။

ဒါကြောင့်မို့ လူ့ရဲ့သက်တမ်းဟာ **"အာယုဂဏနာယ နိယမော နတ္ထိ"** ဆိုတဲ့အတိုင်း သက်တမ်းရဲ့ အရေအတွက် ဂဏန်းဟာ မမြဲဘူးတဲ့၊ ဘာလို့ မမြဲလဲဆိုလျှင် ခုနကလို ဥတု အာဟာရပေါ်မှာ မှီတည်ပြီး လူတွေရဲ့သက်တမ်းဟာ တက်လိုက် ကျလိုက်၊ ဒီလို နှစ်မျိုးကြုံနေလို့ မမြဲဘူး။

ယခုခေတ် ၁၀၀-တမ်းလို့ ခေါ်တာဟာ ၁၀၀ တိတိကို ပြောတာမဟုတ်ဘူး၊ တစ်ရာ ဆိုတာ ယေဘုယျစကားတစ်ခု၊ ၁၀၀ ရှည်ချင်ရှည်မယ်၊ ၁၂၀ ရှည်ချင်ရှည်မယ်၊ ၁၀၀ တမ်းမှာပဲ ၁၆၀ လောက် ရှည်ချင်ရှည်မယ်နော်၊ သို့သော်လည်း ၂၀၀ ထိအောင် ရောက်ဖို့ မရှိနိုင်ဘူးတဲ့၊ ဒီအောက်လျော့ကျပြီးတော့ လာတယ်၊

http://www.dhammadownload.com



သတင်းစာထဲက နာရေးကြော်ငြာ ဖတ်ကြည့်လိုက်လျှင် ၆၀ ကျော်ဆို သွားကုန်ကြပြီနော်၊ အဲဒါကြောင့်မို့ တချို့က ၇၅ နှစ် တမ်းလို့တောင်သတ်မှတ်တယ်၊ ၇၅ နှစ်တမ်း၊ ဘာလို့တုန်းဆိုလျှင် အသက် ၅၀ လောက်၊ ၆၀ လောက်ဆိုလျှင် အဘိုးကြီး အဘွားကြီး ဖြစ်လာပြီ၊ ၇၅ နှစ်ဆိုရင် တော်တော့်ကို အသက်က ကြီးသွားပြီလို့၊ အေး - သက်တမ်းကုန်ပြီဆိုရင်တော့လည်း ဘယ်သူပဲဖြစ်ဖြစ် သေဆုံးရမှာပဲတဲ့၊ ဒါ သက်တမ်းကုန်လို့သေတာ၊ "အာယုက္ခယ" လို့ ခေါ်တယ်။

သို့သော် သက်တမ်းတိုတဲ့ ခေတ်ထဲမှာ ဆေးဝါးတွေ ဓာတ်စာ တွေနဲ့ နည်းအမျိုးမျိုးနဲ့ သက်တမ်းရှည်ဖို့ ကြိုးစားနေသူတွေလည်း ရှိတယ်၊ သို့သော် အောင်မြင်တယ်လို့တော့ မကြားရဘူးနော်၊ ရသာယနဆေးတွေ ဓာတ်တွေ အားကိုးပြီး အသက်ရှည်ဖို့ ကြိုးစား ကြတယ်၊ ဘယ်လိုပဲ ကြိုးစားကြိုးစား၊ မြတ်စွာဘုရားတောင်မှ ၁၀၀-တမ်းမှာ လူဖြစ်လာရပေမယ့် အသက် ၈၀ ပဲနေရတယ်။ မြတ်စွာဘုရားရဲ့ ကုသိုလ်ကံကို ပြောမယ်ဆိုရင် အသင်္ချေ ထိအောင် နေနိုင်တဲ့ကံ ရှိသော်လည်းပဲ ဥတု အာဟာရဆိုတဲ့ အကြောင်းပေါ်မှာ အခြေပြုနေရသည့် လူရဲ့သက်တမ်းအတိုင်း သက်တော်-၈၀ မှာ ပရိနိဗ္ဗာန် စံသွားရတယ်၊ အာယုက္ခယ သက်တမ်းကုန်လို့ သေတယ်တဲ့၊ ဒါ ရိုးရာသေတာ၊ အသက်ကြီး လို့ သေတယ်လို့ ပြောရမယ်။

သို့သော် သေပြီဆိုရင်တော့ အကြောင်းတစ်ခုခုတော့ လာတာပဲပေါ့၊ သေဖို့ရာ အကြောင်းတစ်ခုခု ဖြစ်လာတတ်တယ်၊ ဒါကိုလည်းပဲ ဆင်ခြင်စဉ်းစားထားသင့်တဲ့ အချက်တစ်ချက်ပဲ၊

http://www.dhammadownload.com



"ဘဝအရေးဝယ် ထာဝရတွေးထားရမည့် အချက်များ" ဆိုပြီး ဘုန်းကြီးတို့ ဟောထားတဲ့တရားတစ်ပုဒ် ရှိတယ်၊ **"မရဏဓမ္မော မှိ မရဏံ အနတီတော"** ငါဟာ သေခြင်းသဘောရှိတယ်၊ သေခြင်းဆိုတဲ့ သဘာဝကို ငါကျော်ဖြတ်ပြီး မသွားနိုင်ဘူး၊ ခုန်ကျော်လို့ မရဘူးဆိုတဲ့အချက်ကို တွေးရမယ်တဲ့၊ မတွေးဘဲ မနေရဘူး၊ မြတ်စွာဘုရားက **"အဘိဏှံ ပစ္စဝေက္ခိတဗ္ဗံ"** တဲ့၊ မပြတ်မလပ် ဆင်ခြင်ပေးရမယ်၊ ဒီလို ဆင်ခြင်ပေးတာ အကျိုး ရှိတယ်၊ ရှေးဆရာတော်ကြီးတွေကလည်း "သေခြင်းတစ်ပါး၊ ဤတရားကား၊ စီးပွားများမြောင်၊ အကျိုးဆောင်သည်၊ အိုအောင် အောက်မေ့စီးဖြန်းကြ" တဲ့။

"စီးပွား" ဆိုတာ ပစ္စည်းဥစ္စာတွေ တိုးတက်တာကိုပြောတာ မဟုတ်ဘူးနော်၊ စီးပွားဆိုတာ အကျိုးကျေးဇူးတွေ ဖြစ်ထွန်းစေ နိုင်တယ်လို့ ပြောတာ၊ 'သေခြင်းတစ်ပါး ဤတရားကား စီးပွား များမြောင်' အကျိုးတရားတွေ မြောက်မြားစွာ ရနိုင်တယ်၊ ဒီဘဝ တင်ပဲ ဘာအကျိုးရတုန်း ဆိုလို့ရှိရင် သေဆုံးတဲ့အခါမှာ ရဲရဲဝံ့ဝံ့ သေဝံ့တယ်ပေါ့၊ သေခြင်းတရားကို ရင်ဆိုင်ဝံ့တယ်၊ အဲဒီ မကြောက်မရွံ့ ရင်ဆိုင်ဝံ့တာကိုက အကျိုးကျေးဇူး တစ်ခုပဲ၊ ကြောက်ကြောက်လန့်လန့်နဲ့ သေသွားရတဲ့ ပုဂ္ဂိုလ်တစ်ယောက် ဟာ ဘယ်လိုလုပ်ပြီး ကောင်းရာသုဂတိ ရောက်နိုင်မှာတုန်း၊ အေးအေးချမ်းချမ်း လုပ်နိုင်မှာ မဟုတ်ဘူးတဲ့။ ဒါကြောင့်မို့ ရဲရဲဝံ့ဝံ့ ပြုံးပြုံးရွှင်ရွှင်နဲ့ သေခြင်းတရားကို ရင်ဆိုင်သွားနိုင်အောင် လေ့ကျင့်ထားရမယ်လို့ ဒီလိုပြောတာနော်။

http://www.dhammadownload.com



မရဏာသတိ ဆိုတာ တချို့က "အမယ်လေး မင်္ဂလာမရှိ ဘာမရှိနဲ့" ဆိုပြီး အမင်္ဂလာလို့ ထင်နေတယ်၊ အမင်္ဂလာဆိုတာ အဲဒါခေါ်တာ မဟုတ်ဘူး၊ "အကုသိုလ် လုပ်နေတာမှ အမင်္ဂလာ အစစ်"၊ သို့သော် အကုသိုလ်လုပ်တာကျတော့ အမင်္ဂလာလို့ မထင်ဘူး၊ မင်္ဂလာလို့ ထင်နေသေးတယ်၊ သေတာကျတော့ အမင်္ဂလာလို့ ထင်တယ်၊ အေး - သေခြင်းအကြောင်း ပြောလို့ရှိရင် နိမိတ်မရှိ၊ နမာမရှိလို့ လူတွေက ပြောကြတယ်နော်။

မြတ်စွာဘုရားကတော့ 'သေခြင်းတစ်ပါး၊ ဤတရားကား စီးပွားများမြောင် အကျိုးဆောင်သည်၊ အိုအောင် အောက်မေ့ စီးဖြန်းကြ' ဆိုတဲ့အတိုင်း တစ်သက်လုံး စီးဖြန်းလို့ ဒီလိုပြောတာ၊ စီးဖြန်းခိုင်းတာ၊ စီးဖြန်းတယ်ဆိုတာ စိတ်ကို လေ့ကျင့်ပေးထား တာ။

အာဠဝီပြည် မြတ်စွာဘုရား ကြွပြီးတော့ တရားဟောတာ၊ မရဏာသတိကမ္မဋ္ဌာန်းကို ဟောခဲ့တာပဲ၊ အဲသလို မရဏာသတိ ကမ္မဋ္ဌာန်းကို ဟောလိုက်တဲ့အခါမှာ ထောင်ပေါင်းများစွာသော ပရိသတ်တွေ လာပြီးနာပေမယ့်လို့ ပရိသတ်ထဲမှာ မရဏာသတိ ဘာဝနာကို လေ့ကျင့်တဲ့ပုဂ္ဂိုလ်က တစ်ယောက်တည်းပဲရှိတယ်၊ ကျန်တဲ့ပုဂ္ဂိုလ်တွေက မလေ့ကျင့်ကြဘူး၊ နာပြီး ပျောက်သွားတာပဲ။

လေ့ကျင့်တာကတော့ ရက္ကန်းသည်ရဲ့ သမီးကလေး တစ်ယောက်ပဲ၊ မြတ်စွာဘုရားဟောထားတဲ့ တရားကို စွဲစွဲမြဲမြဲ မှတ်သားပြီးတော့ သေခြင်းတရားကို အမြဲတမ်း ဆင်ခြင်တယ်၊ သူတစ်ယောက်ပဲရှိတယ်တဲ့၊ ဒါကြောင့်မို့ မြတ်စွာဘုရားကြွလာလို့ မေးခွန်းမေးတဲ့အခါကျတော့ အမှန်ဖြေနိုင်တာ သူတစ်ယောက်ပဲ

http://www.dhammadownload.com



ရှိတယ်၊ ကျန်တဲ့သူတွေက ဘာဖြေရမှန်းမသိဘူး၊ ဖြေလိုက်ရင် အလွဲချည့်၊ မေးခွန်း ၄-ပုဒ်၊ အားလုံးသိကြတဲ့အတိုင်း။

အဲဒီသတို့သမီးလေး လာတဲ့အခါ မြတ်စွာဘုရားက သူ့ အနားလာဖို့ အရိပ်အယောင်ပြတော့ အမျိုးသမီးက ဘုရားနား လေးထိအောင်လာပြီး ဝတ်ပြုတယ်။ မြတ်စွာဘုရားက မေးတယ်- "ဘယ်က လာတာတုန်း" လို့မေးတယ်၊ သေခြင်းတရားကို ဆင်ခြင် စဉ်းစားမှုမပြုတဲ့ ပုဂ္ဂိုလ်တွေကတော့ အိမ်က လာတယ်လို့ပဲ ထင်တယ်၊ မြတ်စွာဘုရားက မေးလိုတာက ဘယ်ဘဝက လာခဲ့ တာတုန်းလို့မေးတာ၊ အဲတော့ ဘယ်ကလာတာတုန်းဆိုတော့ သူက အဖြေမှန်ပေးနိုင်တယ်- "မသိပါဘုရား" . . . ဟော သေခြင်းတရားကို သူစဉ်းစားထားတာကိုး၊ ဘယ်ဘဝက လာခဲ့တာတုန်းဆိုတဲ့ မေးခွန်းလေးကိုဖြေတာ၊ "ဘယ်က လာတာ တုန်း?" "မသိပါဘုရား"၊ "ဟ- ဘယ်လိုတုန်း အိမ်ကလာတာ သိလျက်သားနဲ့ ဘယ့်နှယ့်ကြောင့် မသိဘူးဖြေရတာတုန်း" သူတို့က ထိုအမျိုးသမီးလေးဖြေတဲ့ အဖြေကိုပဲ အဖြေမှားလို့ ထင်နေကြ သေးတယ်နော်။

"ဘယ်သွားမလို့တုန်း" လို့ မြတ်စွာဘုရား မေးတဲ့အခါ "မသိပါဘုရား"၊ ကျန်တဲ့သူတွေက "ဟာ ရက္ကန်းရုံ သွားမလို့၊ ဘယ့်နှယ့်ကြောင့် မသိပါဘုရား ဖြေရတာလဲ" ဒီလိုတွေ ဖြစ်ကြ ပြန်တာပေါ့၊ အဲဒီတော့ တရားသိတဲ့သူနဲ့ မသိတဲ့သူဟာ အဖြေ ထုတ်ရင် တစ်မျိုးစီ ထွက်လာမှာပဲဆိုထာ ထင်ရှားတာပေါ့၊ "မသိဘူးလား" လို့ မေးတဲ့အခါ "သိပါတယ်ဘုရား" တဲ့၊ ဒီတော့ ရီစရာ လုပ်သလို ဖြစ်နေတယ်၊ မသိဘူးလားဆိုမှ သိပါတယ်၊

http://www.dhammadownload.com



"သိရဲ့လား" ဆိုတော့ "မသိပါဘုရား"တဲ့၊ ဟောဒီလို ဖြေတာကိုး။ မသိဘူးလားဆိုတော့ "နင်သေရမှာ မသိဘူးလား" "သိပါတယ်" တဲ့၊ "ဒါဖြင့် ဘယ်နေ့ ဘယ်ရက် သေမှာဆိုတာ သိရဲ့လား" လို့ဆိုတော့ "မသိပါဘုရား"လို့ ဖြေတာ။

ဒီမေးခွန်းတိုတိုလေးဟာ မြတ်စွာဘုရားက စောစောက လည်း သင်ထားပေးခဲ့ပုံရပါတယ်၊ ကျန်တဲ့သူတွေက မေ့ကုန်တာ ဖြစ်လိမ့်မယ်၊ ဘဝတစ်ခုဟာ သေဆုံးခြင်းနဲ့ အဆုံးသတ်ပြီး နောက်ဘဝတစ်ခုထပ်ပြီး ခရီးဆက်ပြီးနေကြတာဖြစ်လို့ သံသရာ ခရီးသွားနေတဲ့အကြောင်းကို မြတ်စွာဘုရားက မေးခွန်း ၄-ခုနဲ့ ပုစ္ဆာထုတ်တာတဲ့။

အဲဒီတော့ လောကလူတွေဟာ သေကြရမှာ ဆိုတာတော့ လူတိုင်းသိတယ်၊ သို့သော် ဘယ်နေ့ ဘယ်ရက် ဘယ်အချိန် ဘယ်နေရာမှာ သေမယ်ဆိုတာ မသိဘူးလို့ ဒီလိုပြောတာနော်၊ ဘာမှ မသိနိုင်ဘူး။

အခု လမ်းလာရင်းတောင်မှ လမ်းမှာ မိန်းကလေး တစ်ယောက် ကားတိုက်သွားတာ တွေ့ခဲ့ရတယ်၊ ကြည့် ဒီကနေ့ လည်း သေခြင်းအကြောင်း ဟောမယ်ဆိုမှ လမ်းမှာ သေသလား၊ ရှင်သလားတောင် မသိဘူး၊ ကားတိုက်သွားတာ။

လူတွေကလည်း ညကျလို့ရှိရင် လမ်းလယ်ခေါင်မှာ ရပ်ပြီး တော့ နေကြတယ်၊ ဟိုဘက်ကကား ဒီဘက်ကကား လာတဲ့နေရာ လမ်းပေါ်မှာ ရပ်ပြီးတော့နေတာ အလွန်မှအန္တရာယ်များတယ်၊ ဟိုဘက်က ကားမီးကထိုးလိုက်၊ ဒီဘက်က ကားမီးလာထိုးလိုက်နဲ့

http://www.dhammadownload.com



အလယ်ခေါင်မှာ ပျောက်နေတယ်၊ အဲဒီအချိန်မှာ ကျော်တက်တဲ့ ကားနဲ့ တွေ့လို့ရှိရင် တိုက်သွားမှာပဲ။

အရင်တုန်းက ဘုန်းကြီးတစ်ပါးလည်း ဒီလိုပဲ၊ လမ်းလယ်ခေါင် ရပ်နေတုန်း ကားတိုက်သွားဖူးတယ်၊ ကြုံရဖူးတယ်၊ အဲဒါ ကြောင့်မို့လို့ ခရီးလမ်းသွားတဲ့ ပုဂ္ဂိုလ်တွေ အန္တရာယ်ကို သတိထား သင့်တယ်ပေါ့၊ ကူးမယ်ဆိုလျှင် မြန်မြန်ကူး၊ တချို့က ကိုယ့်အိမ်ပေါ် ကိုယ်လမ်းလျှောက်နေသလိုပဲ ကူးနေတာ၊ အဲတော့ ကားလာတဲ့ ဘက်ကို မကြည့်ဘူး၊ ကိုယ်ကြည့်ချင်တဲ့ဘက်ကို ကြည့်ပြီး ကူးတယ်၊ တချို့က နားကြပ်လေးတပ်ပြီး သီချင်းနားထောင်ပြီး သွားတာ ရှိသေးတယ်နော်၊ အန္တရာယ်အလွန်များတယ်ပေါ့၊ ကူး မယ်ဆိုရင် နှစ်ဘက်ရှင်းတဲ့အချိန် ခပ်သုတ်သုတ်ကူး၊ ဟိုဘက် ရောက်တော့မှ အေးအေးဆေးဆေးနေ၊ အဲသလို မဟုတ်ဘူး၊ လမ်းလယ်ခေါင် မတ်တပ်ကြီးတွေရပ်လို့၊ ဝတ်ထားတဲ့ အဝတ်က အနက်ရောင်ဆိုတော့ ပိုဆိုးသေး၊ မှောင်ကြီးထဲမှာ။

အေး - သေခြင်းရဲ့ အကြောင်းတရားတွေက အလွန်ပဲ များတယ်၊ သက်တမ်းစေ့လို့ သေတာကတော့ထားတော့၊ ဘဝ တစ်ခု ချုပ်ငြိမ်းသွားတာ၊ သက်တမ်းစေ့လို့ သေတာတဲ့နော်- နံပါတ်-၁ သေခြင်းက သက်တမ်းစေ့လို့ သေတာတဲ့နော်၊ သက်တမ်းစေ့အောင်နေပြီး သေရတဲ့လူဟာ လောကမှာ အလွန် နည်းတယ်လို့ ပြောရမှာပေါ့။

နောက်တစ်ခု ဘာကြောင့်သေကြရတုန်းဆိုရင် **ကမ္မက္ခ-ယေန-** လူ့ဘဝကို ပို့ပေးလိုက်တဲ့ ကံက အလွန်အားနည်းတဲ့ကံ ဖြစ်နေတယ်၊ ထိုကံက ဘဝတစ်ခု ဆုံးသည်ထိအောင် ဆက်လက်

http://www.dhammadownload.com



ပြီးတော့ မထိန်းနိုင်ဘူးတဲ့၊ ဆိုပါစို့ - လူ့ဘဝကို ပို့ပေးလိုက်တဲ့ ကံက အားနည်းသည့်အတွက်ကြောင့် လူ့ဘဝ သက်တမ်းမှာ ၁၀၀-တမ်း ဖြစ်ပေမယ့်လို့ ထိုပုဂ္ဂိုလ်က ၂၀-၃၀ လောက်နဲ့ သေသွားတယ်၊ ဘာဖြစ်လို့တုန်း၊ ရှေ့ဆက်နေဖို့ရာ သူ့မှာ ကံ မရှိတော့ဘူး, ကံရဲ့ထောက်ပံ့မှုကို မရတော့ဘူး၊ ဒီလို ကံကုန်လို့ သေရတဲ့ ပုဂ္ဂိုလ်မျိုးက ရှိသေးတယ်၊ ဘာကြောင့်ရယ်လို့ မဟုတ်ဘဲနဲ့ ငယ်ငယ်ရွယ်ရွယ်နဲ့ သေဆုံးသွားရတဲ့ ပုဂ္ဂိုလ်တွေနော်၊ ကံကုန်လို့ သေတယ်လို့ ဒီလိုပြောရမယ်၊ အဲသလို ပုဂ္ဂိုလ်မျိုးလည်း ရှိတယ်။

သက်တမ်းမစေ့ခင် ခုနက ဥပစ္ဆေဒကတို့ ဘာတို့ တစ်စုံတစ်ခုသောအကြောင်းကြောင့် မဟုတ်ဘဲနဲ့ သက်တမ်းမစေ့ခင်ပဲ ရောဂါရသည်ဖြစ်စေ၊ အကြောင်းတစ်ခုခုကြောင့်ဖြစ်စေ သေဆုံးပြီးတော့ သွားကြတယ်၊ ကမ္မက္ခယတဲ့၊ ကုသိုလ်ကံက ဒီလောက်ပဲ သူ့ကို အသက်နေခွင့်ပေးလို့ ငယ်ငယ်နဲ့ သေသွားကြတယ်၊ ဒီလို ပုဂ္ဂိုလ်မျိုးတွေလည်း ရှိတာပဲ။

နောက်တစ်ခုကတော့ "ဥဘယက္ခယ"တဲ့၊ ဥဘယဆိုတာ နှစ်မျိုးစုံ၊ သက်တမ်းကလည်း ကုန်တယ်၊ ကံကလည်း ကုန်တယ်တဲ့၊ "မီးစာကုန် ဆီခမ်း" လို့ ပြောကြတယ် ဗမာပြည်မှာ၊ အော်-သူကတော့ မီးစာကုန် ဆီခန်းပဲတဲ့၊ မီးစာလည်း ကုန်တယ်၊ ဆီလည်း ခမ်းသွားတယ်၊ ဒီမီးတောက်ကလေး ငြိမ်းသွားတယ်၊ သက်တမ်းလည်းကုန် ကံလည်းကုန်လို့ သေဆုံးသွားတယ်။

နောက်စတုတ္ထတစ်ခုက "ဥပစ္ဆေဒကကံ"၊ ဥပစ္ဆေဒက ဆိုတာ ဆက်လက်ရှင်သန်ခွင့်မပေးဘဲ ဖြတ်တောက်ပစ်တဲ့ကံ သို့မဟုတ်

http://www.dhammadownload.com



အကြောင်းတရားတစ်ခုခု၊ ဒီဘဝ မိမိလုပ်တဲ့ အကုသိုလ်ကံကြောင့် ဖြစ်စေ, အတိတ်ကပါလာတဲ့ တစ်စုံတစ်ခုသော အကြောင်းကြောင့်ဖြစ်စေ လူတွေဟာ သေနေ့မစေ့ခင် သေကြတာရှိတယ်။ များသောအားဖြင့် ပြောကြတာတော့ သေတယ်ဆိုရင် သေနေ့စေ့လို့ သေတယ်လို့ ပြောနေကြတယ်နော်၊ ဒီတော့ သေရမှာက ဥပမာ- လူ့ရဲ့သက်တမ်းက ၁၀၀ ဆိုရင် သူ့သေနေ့က ၁၀၀ ပြည့်မှ သေရမှာပေါ့။ ဘဝတစ်ခုမှာ ကံက အကျိုးမပေးဘူး၊ အဲဒီလောက်ထိအောင် မရှိဘူးဆိုရင်တော့ ဒီထက်တိုပြီးတော့ သေမှာပဲ၊ သို့သော် လူဟာအသက်လည်းရှင်နိုင်တယ်၊ ကံကလည်း ရှိနေသေးတယ်၊ ဖြတ်တောက်ပြီးတော့ ဝင်ရောက်လာတဲ့ အကြောင်းတစ်ခုခုက နှိပ်စက်လိုက်လို့ သေသွားတာမျိုးပဲ။

ဥပစ္ဆေဒကကံနဲ့ သေတယ်ဆိုတာ accident နဲ့ သေတာမျိုးကို ခေါ်တာ၊ accidenနဲ့ သေတာမျိုးလည်း ဥပစ္ဆေဒကကံထဲမှာ ထည့်တယ်နော်၊ အတိတ်ဘဝကံကြောင့်ဖြစ်စေ ပစ္စုပ္ပန်လုပ်ရပ်ကြောင့်ဖြစ်စေ လူတစ်ယောက်မှာ ကြားကာလမှာ လူသတ်ခံရတယ်၊ သူများရဲ့ လှံ့လပယောဂ၊ သူများလက်ချက်နဲ့ သေတာ၊ ကိုယ့်လက်ချက်နဲ့ ကိုယ့်ဟာကိုယ် suicide လုပ်တယ်၊ ကိုယ့်ကိုယ်ကို သတ်သေတယ်၊ အဲဒီလို ပုဂ္ဂိုလ်မျိုးတွေဟာ ဥပစ္ဆေဒကကံလို့ ပြောရမယ်၊ တစ်စုံတစ်ခုသော အကြောင်းကြောင့် ဖြစ်သွားတာ၊ ကားတိုက်လို့သေတယ်၊ ဒါလည်း ဥပစ္ဆေဒကကံ၊ လေယာဉ်ပျံပျက်ကျလို့ သေတယ်၊ သင်္ဘောနစ်လို့ သေတယ်၊ မုန်တိုင်းတိုက်လို့ သေတယ်၊ သစ်ပင်လဲကျပြီး ပိသွားလို့ သေတယ်၊ မျိုးစုံပဲ၊ ဥပစ္ဆေဒကကံရဲ့ ဘဝတစ်ခုရဲ့ အကြောင်းကံ

http://www.dhammadownload.com



တစ်ခုကို ဖြတ်တောက်ပစ်လိုက်တာလို့ ပြောတာ၊ ဥပစ္ဆေဒက ဆိုတာ ဖြတ်တောက်ပစ်လိုက်တာ။

အဲဒီထဲမယ် အကုသိုလ်ကံကြောင့် မိမိရဲ့ မှားယွင်းတဲ့လုပ်ရပ်ကြောင့် ကိုယ့်ဘဝတစ်ခုလုံးကို ဖြတ်တောက်ပြီးတော့ သေသွားတယ်ဆိုတာ လူတွေတောင် မကဘူး၊ နတ်တွေလည်း ရှိတာပဲ၊ ဥပစ္ဆေဒကကံနဲ့ သေတယ်ဆိုတာ နတ်တွေမှာလည်းရှိတယ်။

ကကုသန်မြတ်စွာဘုရားလက်ထက်က ဒုသီဆိုတဲ့ မာရ်နတ်ကြီးရှိတယ်၊ အဲဒီမာရ်နတ်ဟာ ရှင်မဟာမောဂ္ဂလာန်ရဲ့ အတိတ်ဘဝတစ်ခုပဲ၊ အဲဒီဒုသီမာရ်နတ်အကြောင်းကို မဇ္ဈိမပဏ္ဏာသ၊ မာရတဇ္ဇနီယ (မာရ်နတ်ကို ကြိမ်းဝါးခြင်း)ဆိုတဲ့ သုတ်မှာရှိတယ်၊ အဲဒီသုတ္တန် စဖြစ်လာပုံက တစ်နေ့တော့ ရှင်မောဂ္ဂလာန် တောရကျောင်းလေးမှာ သီတင်းသုံးနေစဉ် ရှင်မောဂ္ဂလာန်ရဲ့ဗိုက်ထဲ မာရ်နတ်က ဝင်နေတယ်၊ ရှင်မောဂ္ဂလာန်က ဗိုက် လေးတေးလေးတေးဖြစ်နေလို့ ဘာများဖြစ်နေတုန်းဆိုပြီး အာရုံပြုကြည့်တယ်၊ မာရ်နတ်ကလည်း ကိုယ်အလေးချိန် များတယ်ထင်တယ်၊ သေးသေးလေး ဖန်ဆင်းထားပေမယ့်လို့ သူ့ကိုယ်အလေးချိန် ရှိပုံရတယ်၊ ဗိုက်ထဲမှာ လေတေးလေးတေးမို့ လမ်းလျှောက်ရင်းကနေ ကျောင်းထဲဝင်ထိုင်ပြီး ငါ့ဗိုက်ထဲ ဘာဖြစ်နေတုန်း ကြည့်လိုက်တဲ့အခါ မာရ်နတ်က ဝင်နေတာတွေ့ရတယ်၊ အဲဒီတော့ ပြောတယ်၊ "ဟဲ့ မာရ်နတ်၊ နင်ငါ့ကို မညှင်းဆဲချင်နဲ့၊ ဘုရားကိုလည်း မညှင်းဆဲချင်နဲ့၊ ဘုရားရဲ့တပည့်တွေကိုလည်း မညှင်းဆဲချင်နဲ့၊ မင်းကို ငါမြင်တယ်၊ ထွက်" လို့ ပြောတာ၊ အဲဒါကို မာရ်နတ်က ဒီကိုယ်တော်ကြီး ရမ်းပြောတာ နေမှာပါ၊ သူ မမြင်

http://www.dhammadownload.com



လောက်ပါဘူးလို့ ထင်တယ်၊ မသွားဘဲနဲ့ တံခါးကြားမှာ ရပ်နေသေးတယ်။

အဲဒီမှာ ရှင်မောဂ္ဂလာန်က ဒီကောင် မဟုတ်တရုတ်တွေ ကြံနေပြီ၊ ဒုက္ခတွေ ပေးတော့မယ်နဲ့တူတယ်ဆိုပြီး သူ့ကို ချော့တဲ့ အနေနဲ့ ဆွေမျိုးစပ်တယ်၊ " အရင်ဘဝတုန်းက မင်းက ငါ့တူပါ" တဲ့၊ "အရင်ဘဝတုန်းက ငါ့ရဲ့နှမက ကာဠီလို့ ခေါ်တယ်၊ မင်းက ကာဠီရဲ့သား" တဲ့။

အဲဒီတော့ နတ်ပြည်မှာ သားတွေသမီးတွေ ရှိသလားလို့ မေးမယ်ဆိုလို့ရှိလျှင် ရှိတယ်၊ လူတွေလို မွေးဖွားလာတဲ့ သားသမီးတော့ မရှိဘူး၊ သိကြားမင်းမှာ သားတွေရှိတယ်၊ အဲဒီသားတွေက ဘယ်လိုလုပ်ရတဲ့ သားတွေတုန်းလို့ဆိုရင် ဒီဘဝက ကုသိုလ်ကောင်းမှုလုပ်တဲ့ ပုဂ္ဂိုလ်အမျိုးမျိုး ရှိတဲ့အထဲမယ် သိကြားမင်းသားဖြစ်ရမယ့်ပုဂ္ဂိုလ်က သိကြားမင်းရဲ့ ရင်ခွင်ထဲမှာ ဘွားကနဲ ပေါ်တာ၊ "ရင်ခွင်ထဲမှာ ပေါ်လို့ရှိရင် သား" လို့ သတ်မှတ်ရတယ်၊ အဲသလို သားမျိုး ရှိတာပေါ့နော်၊ တခြား နေရာတွေမှာဖြစ်ရင် တခြားအမျိုးအစားထဲမှာ ပါတာပေါ့။

အဲဒီတော့ ကာဠီရဲ့သားဆိုတာ ကာဠီနတ်သမီးရဲ့ ရင်ခွင်ထဲမှာ သွားဖြစ်လို့ ကာဠီရဲ့သားလို့ ခေါ်လိုက်တာပေါ့၊ အဲဒီ ဒုသီဆိုတဲ့ မာရ်နတ်က ဘယ်လောက်တောင် ဆိုးတုန်းဆိုလို့ရှိရင် ကကုသန်မြတ်စွာဘုရားလက်ထက်က လူတွေကို သူက စူးစမ်းချင်တယ်၊ သူတေသနသမားနဲ့ တူပါတယ်၊ စူးစမ်းချင်တယ်၊ "ဒီရဟန်းတွေကို ဒကာဒကာမတွေက သိပ်ပြီးတော့ လျှာအောင် လုပ်ရင် သူတို့ ဘာဖြစ်မလဲ" ဆိုပြီးတော့ လူတွေရဲ့ ခန္ဓာကိုယ်ကို

http://www.dhammadownload.com



ဝင်ပူးပြီးတော့ ရဟန်းတွေကို လှူကြတယ် ပူဇော်ကြတယ် ရှိခိုးကြတယ် ကိုးကွယ်ကြတယ်၊ အဲဒါတွေကို လူတွေရဲ့စိတ်ဓာတ်ကို ပြောင်းလဲအောင်လုပ်တယ်။

လူတွေဟာ ဘုရားသွား ကျောင်းတက် လှူကြ တန်းကြ ဒီလိုနေကြတာ၊ သေတဲ့လူတွေ နတ်ပြည်ရောက်တယ်၊ တော်တော်များများ နတ်ပြည် ရောက်ကြတယ်၊ သူ့ရဲ့ သွေးဆောင်ဖြားယောင်းမှုနဲ့ လူတွေက ကုသိုလ်လုပ်ကြတယ်။

အဲလိုလုပ်တဲ့အခါမှာ မြတ်စွာဘုရားက စိတ်ဓာတ်ရေးရာပိုင်းနဲ့ ပတ်သက်ပြီးတော့ ဘာနဲ့ ခုခံခိုင်းတုန်းဆိုလို့ရှိရင် အသုဘကမ္မဋ္ဌာန်းပေးပြီး "အသုဘသညာ" ကို ပွားခိုင်းထားတယ်၊ ဘာဖြစ်လို့တုန်းဆိုတော့ ဒကာဒကာမတွေက ပူဇော်ကြ ကိုးကွယ်ကြတဲ့အခါ လောဘတွေ ဖြစ်မှာစိုးလို့၊ မဖြစ်ရအောင် အသုဘကမ္မဋ္ဌာန်း ပေးထားတယ်၊ အဲဒါနဲ့ ခုခံထားတော့ ရဟန်းတွေက တုန်လှုပ်မှု မရှိဘူး။

မရှိတော့တစ်ခါ သူက technique ပြောင်းတယ်၊ ရဟန်းတွေတုန်လှုပ်အောင် ဒီတစ်ခါတော့ လူတွေရဲ့ကိုယ်ထဲကို ဝင်ပူးပြီးတော့ ရဟန်းတွေကို ဆဲမယ် ခဲနဲ့ပေါက်မယ်၊ မလှူဘူး မတန်းဘူး၊ အရိုအသေမပေးဘူး အဲသလိုဖြစ်အောင် ပြောင်းပြန်တယ်၊ ပြောင်းတဲ့အခါကျတော့ မြတ်စွာဘုရားကလည်း ရဟန်းတွေကို ဆုံးမတယ်၊ မေတ္တာဘာဝနာပွားပြီးတော့ နေကြလို့ ရဟန်းတွေ ဘာမှမဖြစ်ဘူး၊ လူတွေကတော့ ရဟန်းတွေတွေ့ရင် ဆဲကြ ရေးကြ ခဲနဲ့ ပေါက်ကြနဲ့ အဲသလိုလုပ်တယ်၊ အဲသလိုလုပ်လည်း ရဟန်း

http://www.dhammadownload.com



တွေက မေတ္တာဘာဝနာ ပွားနေသည့်အတွက်ကြောင့် ဘာမှ တုန်လှုပ်ခြင်းမရှိ။

ပြောင်းလဲမှုမရှိတဲ့ အနေအထားကို မြင်ရတဲ့အခါ မာရ်နတ်ကြီးက စိတ်တိုလာတယ်၊ သူလုပ်တာတွေ မအောင်မြင်တော့ သူဘာလုပ်တုန်းဆိုတော့ ကလေးတစ်ယောက်ကို ဝင်ပူးပြီးတော့ ရဟန္တာတစ်ပါးကို ခဲနဲ့ပေါက်တယ်၊ သက်သက်မဲ့နော်၊ ခဲနဲ့ပေါက်တဲ့ အခါကျတော့ ခေါင်းမှန်ပြီး ခေါင်းကွဲသွားတယ်၊ သွေးတွေ ဖြာထွက်လာတဲ့အခါ ကကုသန်မြတ်စွာဘုရားက သိလိုက်တော့ ဒါ ကလေးပေါက်တာ မဟုတ်ဘူး၊ မာရ်နတ်ပေါက်တာဆိုတာ သိတယ်။

အဲဒီတော့ မြတ်စွာဘုရားက တစ်ကိုယ်လုံး နောက်လှည့် တယ်၊ ဘုရားကိုယ်တော်မြတ်များဟာ နောက်ကိုလှည့်လို့ရှိရင် ဇက်ကနေပြီး နောက်လှည့်ကြည့်လို့မရဘူးတဲ့၊ "**နာဂါပလောကိတ**" လို့ခေါ်တယ်၊ ဆင်များဟာ နောက်ကိုကြည့်ချင်ရင် တစ်ကိုယ်လုံး လှည့်ရတယ်၊ ဆင်ရဲ့ဇက်က တိုတိုလေးရယ်၊ ဘယ်လိုလုပ် လှည့်ကြည့်လို့ ရမတုန်း၊ ခွေးတို့ ဆိတ်တို့ကျတော့ နောက်လှည့်လို့ ရတာပေါ့နော်၊ ဆင်ကျတော့ ကြည့်ချင်တယ်ဆိုလျှင် တစ်ကိုယ်လုံး ကြီး လှည့်ရတယ်။

အဲဒါလိုပဲ မြတ်စွာဘုရားသခင် ကိုယ်တော်မြတ်ကြီး တစ်ကိုယ်လုံး နောက်လှည့်လိုက်ပြီး ခဲပေါက်တဲ့ မာရ်နတ်ကို ကြည့်ပြီးတော့နော်၊ "အေး ဒုသီမာရ်နတ် မင်း အတိုင်းအတာ တွေ လွန်လာပြီ" ဒါပဲ ဘုရားက ပြောတယ်၊ တစ်ဖက်ကတော့

http://www.dhammadownload.com



သူလုပ်တာမဟုတ်ဘူးလို့ ထင်ကောင်းထင်မယ်၊ မြတ်စွာဘုရားက အဲသလိုလည်း မိန့်ကြားပြီးတော့ ဆက်ကြွသွားတယ်။

ဘုရားက မျက်နှာကို ဟိုဘက်လည်း လှည့်လိုက်တာနဲ့ တစ်ပြိုင်နက် မာရ်နတ်ကြီးဟာ ပူလှချည်ရဲ့ လောင်လှချည်ရဲ့ ဆိုပြီးတော့ ချက်ချင်း မြေမြိုသွားတာ၊ ဒါ သူလုပ်တဲ့လုပ်ရပ်က အလွန်ကို ဆိုးဝါးယုတ်မာသွားပြီ၊ အင်မတန် စင်ကြယ်မြင့်မြတ်တဲ့ ရဟန္တာတစ်ပါးကို သူက ပစ်မှားလိုက်တာကိုး၊ အဲဒီ မာရ်နတ်ကြီး ဟာ ချက်ချင်း အဝီစိငရဲ ကျသွားတယ်၊ ဒါ ဥပစ္ဆေဒကကံကြောင့် ချက်ချင်းအကျိုးပေးသွားတာ။

အလားတူဟာတွေလည်း ရှိတယ်၊ အားလုံးလည်း သိကြပါ တယ်၊ စိဉ္စမာန မြေမြိုသွားတာတို့၊ ဒေဝဒတ် မြေမြိုသွားတာတို့၊ ဒေဝဒတ်ရဲ့အဖေ သုပ္ပဗုဒ္ဓဘုရင်ကြီး မြေမြိုသွားတာတို့ အင်မတန် စင်ကြယ်တဲ့ ပုဂ္ဂိုလ်တွေကို ပစ်မှားလို့ရှိရင် ချက်ချင်းကြီး ဥပစ္ဆေဒက ကံက အသက်ကုန်တဲ့ထိအောင် စောင့်မနေဘဲ သူ့ရဲ့ဘဝတစ်ခု ကို ဖြတ်တောက်ပစ်လိုက်တာနော်၊ ဖြတ်ချပစ်လိုက်ပြီးတော့ ဆိုးဝါးတဲ့ဘဝတစ်ခုကို ရောက်သွားစေတယ်။

အေး အဲလိုမျိုးပဲ အလားတူဝတ္ထုတစ်ခုကို ဇာတက story တွေမှာတွေ့ရမယ်၊ ဥပစ္ဆေဒကကံလို့ပြောရမယ်၊ “စတုဒ္ဒါရဇာတ်” ဆိုတာရှိတယ်၊ စတုဒ္ဒါရဆိုတာ တံခါးလေးပေါက်လို့ အမည် ပေးထားတာရှိတယ်၊ အဲဒီဇာတ်လမ်းက ကဿပ မြတ်စွာဘုရား လက်ထက်တော်အခါတုန်းက ကဿပ မြတ်စွာဘုရားရဲ့တရားကို နာပြီးတော့ မိခင် ဖခင်တွေက သောတာပန်ဖြစ်ပြီး တကယ့် သူတော်ကောင်းတွေ၊ သားလေးတစ်ယောက် မွေးထားတယ်၊

http://www.dhammadownload.com



နာမည်က မိတ္တဝိန္ဒက တဲ့၊ အဲဒီ မွေးထားတဲ့ သားလေးကို မိခင်ကြီး က သားလေးကိုချစ်လို့ ဆုံးမတယ်၊ "ငါ့သား ဘုရားပွင့်တဲ့အချိန် ရောက်နေတယ်၊ တရားဓမ္မတွေနာ၊ အလှူအတန်းတွေလုပ်၊ ဥပုသ် သီတင်းလေးစောင့်၊ တရားလေးနာ" လို့ ပြောတာ သူက လုံးဝ လက်မခံဘူး၊ ဘာလုပ်ဖို့လဲ ဥပုသ်စောင့်တာ, ဘာလုပ်ဖို့ တရားနာရမှာလဲဆိုတာ ငြင်းပယ်တယ်။

အဲတော့ အမေကြီးကတော့ သားလေးကို ချော့မော့ပြီးတော့ တစ်နေ့ကျတော့ "ငါ့သား၊ ဒီကနေ့ ဥပုသ်နေ့ ကျောင်းသွားပြီးတော့ ဥပုသ်စောင့်ခဲ့၊ တစ်ညတော့ ဥပုသ်စောင့်ခဲ့၊ မင်းပြန်လာလို့ရှိရင် ငါငွေ ၁၀၀၀ ပေးမယ်"၊ အဲဒီတော့ ငွေ ၁၀၀၀ ပေးမယ်ဆိုတာနဲ့ ငွေ ၁၀၀၀ ရချင်တာနဲ့ ကျောင်းသွား၊ ကျောင်းမှာ ရောက်တဲ့အခါ တော့ တရားပွဲတွေ ဘာတွေရှိတယ်၊ ဒါပေမယ့် တရားသံ မကြားရ လောက်တဲ့ နေရာသွားပြီး ချောင်ပိတ်အိပ်နေတယ်၊ နားထဲ ဂွမ်း ဆို့ပြီး အိပ်တာလည်း ဖြစ်ချင်ဖြစ်မှာပေါ့။

မိခင်လုပ်တဲ့ပုဂ္ဂိုလ်က ငါ့သားတော့ ညက တရားဟောတဲ့ ဓမ္မကထိကကို အိမ်ပင့်လာမှာပဲလို့ဆိုပြီး စားဖွယ် သောက်ဖွယ် တွေ ပြင်ဆင်ထားတယ်၊ ငါ့သားတော့ လိမ္မာလာတော့မှာပဲ ဆိုပြီး တော့ မနက်ကျတော့ သားဖြစ်သူက ည အိပ်ရေးဝအောင်အိပ်ပြီး တော့ အိမ်ပြန်ရောက်ချလာတယ်၊ အစောကြီး အိမ်ပြန်ရောက်လာ ပြီးတော့ "ဘယ်မတုန်း ဓမ္မကထိကဘုန်းကြီးကော မပင့်ခဲ့ဘူးလား" ဆိုတော့ "ဘာလို့ဖို့လဲပေါ့"၊ အဲဒါနဲ့ သူ့မိခင်ကြီးက "ကဲ ငါ့သား ညက ဥပုသ်စောင့်ထားရတယ်၊ ရော့ ယာဂုလေး အရင် သောက်

http://www.dhammadownload.com



လိုက်ဦး"၊ "ခင်ဗျား ညက ကျုပ်ကို ဥပုသ်စောင့်သွားရင် ငွေ ၁၀၀၀ ပေးမယ်လို့ ပြောတယ်၊ အဲဒီ ငွေ ၁၀၀၀ ဘယ်မတုန်း"။

ငွေ ၁၀၀၀ မရမချင်း မသောက်ဘူး၊ မိခင်ကြီးက ငွေ ၁၀၀၀ ထုတ်လေးကို ရှေ့ချပြီး "ကဲ သောက်ပါကွယ် ရော့ ၁၀၀၀ ထုတ်" ဆိုတော့မှ အဲဒီကျမှ သောက်တယ်၊ ငွေ ၁၀၀၀ ထုတ်ယူပြီးတော့ သောက်တယ်၊ မိခင်ကြီးက သောတာပန်၊ သားက မိုက်မဲတယ်၊ ဒီလိုလည်း ရှိတာပဲ၊ ဆုံးမလို့ မရဘူး၊ အဲတော့ မိခင်ကြီးက ဘယ်လောက် ဆုံးမဆုံးမ မိုက်မဲတဲ့ သားသမီးဆိုတာလည်း ရှိနိုင်တယ်၊ ဆရာသမား ဘယ်လောက်ကောင်းကောင်း တပည့်ကလည်း ကောင်းချင်မှ ကောင်းမှာပေါ့နော်။

တစ်ခါတစ်လေ ဘုန်းကြီးတို့ ကျောင်းက ဆိုးသွမ်းတဲ့ ကိုယ်တော်လေးတွေ သတင်းကြားတယ်ဆိုလို့ရှိရင် "ဟာ၊ ဘယ်ကျောင်းထွက် ဆိုးတယ်" နဲ့ ပြောကြတယ်၊ ဘုန်းကြီးတို့က မေးတယ်၊ "မင်းတို့ အဲသလို ပြောစတမ်း ဆိုလို့ရှိရင် ဒေဝဒတ် ဘယ်ကျောင်းထွက်တုန်း"လို့၊ ဒေဝဒတ်က ဇေတဝန်ကျောင်းထွက်ပဲလို့၊ အဲဒါဆိုရင် ဇေတဝန်ကျောင်း အပြစ်တင်ရမလား၊ ဒေဝဒတ် အပြစ်တင်ရမလား၊ တချို့က ကျောင်းထွက်ဆိုပြီးတော့ ကျောင်းကို ပုတ်ခတ်ပြီးတော့ ပြောလေ့ရှိတာကိုး၊ ဒီတော့ ဒါတွေက မဆိုင်ဘူး၊ သို့သော်လည်း မြန်မာစကားမှာ "သားသမီးမကောင်း မိဘခေါင်း" "တပည့်မကောင်း ဆရာ့ခေါင်း" ဆိုပြီးတော့ ခေါင်းပေါ်တော့ ရောက်တာပေါ့နော်၊ အဲဒါဆိုရင် ဒေဝဒတ် မကောင်း ဘုရားခေါင်း ရောက်မှာပေါ့၊ အဲဒါကျတော့ ချန်ထားကြတယ်၊ ကာယကံရှင်ပုဂ္ဂိုလ်နဲ့ အများကြီးဆိုင်တယ်။

http://www.dhammadownload.com



ဒါကြောင့်မို့လို့ ဘုန်းကြီးတို့စာပေထဲမှာ **“ဥပဒေသ မတ္တ မေဝ ဟိ ပရာယတ္တာ၊ အညာ သဗ္ဗာ သမ္ပတ္တိ အတ္တာဓိနာ ဝ”** တဲ့၊ နည်းပေးလမ်းပြ လုပ်တာသည်ပင်လျှင် ဆရာသမားနဲ့ ပတ်သက်ပါတယ်တဲ့၊ အားလုံးအောင်မြင်မှုဟာ ကိုယ့်ပေါ် မူတည် ပါတယ်တဲ့၊ ဆရာသမားဆိုတာ ဆုံးမဩဝါဒပေးရုံသာ တာဝန် ရှိတယ်လို့ ဒီလိုပြောတယ်နော်၊ အခြားအောင်မြင်မှုဟာ ကိုယ်နဲ့ ဆိုင်တယ်ပေါ့၊ အောင်မြင်မှု ကျရှုံးမှုဟာ ကိုယ်နဲ့ပဲဆိုင်တယ်ပေါ့၊ ဒီလို ဆိုပါတယ်၊ ဒါက ပိုပြီးတော့ လက်တွေ့ကျတယ်။

အဲဒီတော့ အဲဒီ မိတ္တဝိန္ဒက ဆိုတာ ငွေလေး ၁၀၀၀ ရတဲ့ အခါ သူက အရောင်းအဝယ် စိတ်ဝင်စားတယ်၊ ငွေ ၁၀၀၀ အရင်း အနှီးလုပ်ပြီး အရောင်းအဝယ်လုပ်လိုက်တာ မကြာခင်ပဲ သိန်း ၂၀ လောက် ရသွားတယ်၊ သိန်း ၂၀ ရတဲ့အခါကျတော့ သူ့အမေ ကိုပြောတယ်၊ သင်္ဘောနဲ့ ပင်လယ်ခရီးဖြတ်ပြီးတော့ အရောင်း အဝယ် လုပ်ချင်တယ်၊ ဒီမှာတင်လုပ်လို့ အားမရဘူး၊ ပင်လယ်ခရီး နဲ့ သွားမယ်ဆိုတော့ သူ့အမေက တားတယ်၊ “ငါ့သား အိမ်မှာ တို့ပစ္စည်းတွေ အများကြီး၊ မင်းတစ်ယောက်တည်းရှိတယ်၊ ပင်လယ်ခရီးဆိုတာ အင်မတန်အန္တရာယ်များတယ်၊ မသွားပါနဲ့” တားတာ မရဘူး၊ မရရုံတင်မဟုတ်ဘူး၊ အမေက ရှေ့ကနေကာ ဆွဲထားတဲ့အခါ အမေကို တွန်းလှဲထိုးကြိတ်ပြီးတော့ အမေ့ပေါ်က ကျော်ပြီးတော့ ပင်လယ်ခရီးကို ထွက်သွားတယ်၊ ဒါ သူစော်ကား ခဲ့တာနော်၊ အမေကို ထိုးကြိတ်တွန်းလှဲ ပစ်ထားခဲ့တယ်၊ မိခင်က မသွားဖို့ပြောတာမရတော့ အတင်းတားတယ်၊ အတင်းတားတဲ့ အခါ အမေကိုတွန်းလှဲထိုးကြိတ်ပြီးတော့ ထားခဲ့တယ်။

http://www.dhammadownload.com



အဲဒီကနေပြီးတော့ သင်္ဘောပေါ် တက်တယ်၊ ပင်လယ်ခရီး ဖြတ်တဲ့အခါမှာ ပင်လယ်ထဲမှာ သူတို့ရွက်လှေကြီးက အကြောင်းမဲ့ ပင်လယ်ပြင်ထဲမှာ ခုခေတ်လိုဆို စက်ပျက်သွားတယ်ပေါ့၊ အဲဒီ တုန်းက စက်မတပ်တော့ ပင်လယ်ထဲမှာ သင်္ဘောကြီး တက်က ငြိနေသလိုပဲ ရပ်နေတယ်၊ ဘယ်မှ ရွေ့လို့မရတော့ဘူး။

အဲဒီလို ဖြစ်တဲ့အခါကျတော့ ဘာလုပ်ကြတုန်းဆိုတော့ သင်္ဘောပေါ် ပါလာတဲ့သူတွေထဲမှာ လူယုတ်မာဆိုတာ ရှိလောက် တယ်၊ သူ့ကြောင့် ဒီလိုဖြစ်တာ၊ မဲချမယ် ဆိုပြီးတော့ မဲချတယ်၊ မဲချတဲ့အခါ ၃-ကြိမ်တိုင်တိုင် သူ့ချည်းပဲကျတယ်၊ မဲက သူ့ချည်းပဲ ပေါက်တယ်၊ သူ့ကြောင့် ဒီလိုဖြစ်ရတယ်ပေါ့၊ အဲဒါနဲ့ ကဲ မင်းကို တို့ဆက်ပြီး မခေါ် နိုင်တော့ဘူးဆိုပြီးတော့ ဖောင်လေးလုပ်ပြီးတော့ အဲဒီဖောင်ပေါ် တင်ပြီး ပင်လယ်ထဲပစ်ချလိုက်တာပေါ့၊ သူ့လည်း ချပြီးရော သင်္ဘောကြီးက ထွက်သွားသတဲ့၊ အကုသိုလ်များတာ နော်၊ အကုသိုလ်က အကျိုးပေးပြီဆိုရင် ဒီလိုပဲ။

သူဟာ အဲဒီ ဖောင်ကလေးကိုစီးပြီး သွားလိုက်တာ လေသင့်ရာ လှိုင်းပုတ်ရာနဲ့ ပင်လယ်ထဲ မျောပါသွားပြီး ကျွန်းလေး တစ်ကျွန်းနား ရောက်သွားတယ်၊ အဲဒီကျွန်းလေးမှာ ငွေဗိမာန်နဲ့ ဝေမာနိက ပြိတ္တာမတွေ သွားတွေ့တယ်၊ တွေ့တဲ့အခါကျတော့ ဝေမာနိက ပြိတ္တာမတွေက သူ့ကို ကျွေးမွေးစောင့်ရှောက်ထားတာ၊ သူနဲ့ ဝေမာနိကပြိတ္တာမတွေနဲ့ ပျော်လို့ အဲသလိုနေတာ၊ ဝေမာနိက ပြိတ္တာမတွေက ၇-ရက် နတ်စည်းစိမ် ခံစားပြီး ၇ ရက်ကြာတော့ ငရဲခံကြရတယ်တဲ့၊ သတ္တဝါတွေရဲ့ ကံကြမ္မာဆိုတာ အလွန်ထူးဆန်း

http://www.dhammadownload.com



တယ်၊ ၇-ရက် နတ်သမီးကဲ့သို့ စည်းစိမ်ခံစားရပြီးတော့ ၇-ရက် ငရဲမှာ သွားကြရတယ်တဲ့။

တစ်ခါတုန်းက စာအုပ်လေးတစ်အုပ် ဖတ်လိုက်ရတယ်၊ "သေရွာပြန်တို့ရဲ့ ဇာတ်လမ်း"တွေထဲမှာ၊ အဲဒီရွာတစ်ရွာ ရောက်သွားတော့ အဲဒီရွာက လူတွေက ညနေ နေဝင်ပြီဆိုတာနဲ့ တစ်ပြိုင်နက် "ထွက်ကြဟေ့ ထွက်ကြဟေ့" ဆိုပြီးတော့ အကုန်လုံး ရွာလုံးကျွတ် ထွက်ကြတယ်၊ ထွက်ပြီး ဘယ်သွားတာတုန်းဆိုတော့ မီးပုံကြီးတစ်ခု ရှိတယ်၊ အဲဒီ မီးပုံကြီးဆီသွားပြီး ခုန်ဆင်းကြရတာ ဆိုပဲ၊ မနက်မိုးလင်းတော့မှ ပြန်လာကြတယ်၊ ခုန်ခုန်ချပြီး လူတွေ အော်ကြ ဟစ်ကြ ငိုကြနဲ့ တစ်ညလုံး အဲဒီလိုပဲ၊ မီးပုံထဲခုန်ဆင်း မီးလောင်ခံ၊ မနက်မိုးလင်းတဲ့အခါကျတော့ အေးအေးဆေးဆေးနဲ့ ရွာထဲ ပြန်ဝင်လာကြတယ်၊ ဒီလို ပြိတ္တာမျိုးတွေကလည်း ရှိတယ် ပေါ့။

အဲဒီကျွန်းငယ်လေးထဲမှာ ဝေမာနိကပြိတ္တာတွေက ၇-ရက် တိတိ စည်းစိမ်ခံစားပြီး ၇-ရက် မြောက်တဲ့အခါကျတော့ သူ့ကို ပြောထားခဲ့တာပေါ့၊ "တို့ ၇-ရက်ပြည့်ရင် ပြန်လာခဲ့မယ်၊ မင်း မပျင်းမရိနေရစ်" ဆိုတော့ သူတစ်ယောက်တည်း ပျင်းတော့ ဖောင်လေးစီးပြီးတော့ ရှေ့ခရီးဆက်သွားပြီး ပင်လယ်ထဲ မျောသွားတယ်၊ နောက်တစ်ခါ ကျွန်းတစ်ကျွန်း ရောက်သွားပြန်တယ်။ ပတ္တမြားဗိမာန်နဲ့ ဝေမာနိကပြိတ္တာမ ၈-ယောက်နဲ့ တစ်ခါ တွေ့ပြန်ရော၊ အဲဒီမှာတုန်းကလည်း ထို့အတူပဲ သူတို့ကလည်း ၇-ရက် စည်းစိမ်ခံစား၊ ၇-ရက် ငရဲခံလိုက် ဖြစ်နေတာ၊ ရက်စေ့လို့ သူ တစ်ယောက်တည်း နေခဲ့ရတော့ ရှေ့ခရီး ဆက်ထွက်ခဲ့တယ်။

http://www.dhammadownload.com



ရွှေဖိမာန်ကြီးနဲ့ ကျွန်းလေးပေါ်မှာ တစ်ယောက်တည်းနေပါလို့ ထားလျက်သားနဲ့ ဖြတ်ကျော်ပြီးသွားတဲ့အခါ မြို့တစ်မြို့ ရောက်သွားခဲ့တယ်တဲ့။

မြို့ကလည်းပဲ တံတိုင်းလေးဘက်နဲ့ တံခါးပေါက်ကြီး ၄-ပေါက်နဲ့၊ အဲဒီ မြို့ကြီးရောက်တဲ့အခါ ဒီမြို့တက်ပြီးတော့ ဘုရင်လုပ်မယ်လို့ အကြံရတယ်။ အဲဒီမြို့မှာ ဘယ်သူ့ကို ပထမတွေ့တုန်းလို့ဆို ငရဲသားတစ်ယောက် ငရဲခံနေတာ သွားတွေ့တယ်၊ သူ့ခေါင်းပေါ်မှာ သင်တုန်းစက်ကြီးက ချာချာလည်ပြီးတော့ တစ်ခေါင်းလုံးကို လှီးဖြတ်နေတာ၊ သွေးတွေက ဖြာကျနေတယ်၊ သွေးတွေ ပေါက်ပေါက် ပေါက်ပေါက်ကျနေတာ၊ တစ်ကိုယ်လုံး သွေးတွေ စီးကျနေတာ၊ ရင်ဘတ်မှာလည်းပဲ ကြိုးငါးသွယ်နဲ့ စလွယ်သိုင်းကာ ထွက်ပြေးလို့မရအောင် ချည်ထားတာ။

အဲသလို ခေါင်းပေါ်မှာ သင်တုန်းစက်ကြီး လည်ပြီးတော့ တစ်ကိုယ်လုံးကို ချည်နှောင်ထားတာကို သူမြင်တဲ့အခါကျတော့ "ဟာ၊ ဒီလူက အင်မတန်လှပတဲ့ ကြာပန်းကြီး ခေါင်းပေါ် တင်ထားတာပါလား"၊ မိတ္တဝိန္ဒကရဲ့ မျက်စိထဲမှာ သင်တုန်းစက်ကြီးက ကြာပန်းကြီး ဖြစ်နေတယ်တဲ့၊ သူမျက်စိတွေ လည်နေပြီ၊ illusion ဖြစ်သွားပြီ၊ ဘယ်သူကမှ ဖန်တီးတာမဟုတ်ဘူး၊ သူကံက ဖန်တီးတာ၊ ထိုလူကို နှောင်ဖွဲ့ထားတဲ့ နှောင်ကြိုးတွေကျတော့ တန်ဆာဆင်ထားတယ်, စလွယ်သိုင်းထားတယ်လို့ သူ့ မျက်စိထဲမှာ မြင်တယ်၊ "အမယ်လေး အလိုလေး" အော်နေတဲ့ အသံကိုတော့ သီချင်းသံလို့ အောက်မေ့တာ၊ ခုခေတ် music တွေနဲ့တော့ ခပ်ဆင်ဆင်ပဲ၊ အဲဒါလည်းမြင်ရော သူ့စိတ်မှာ သိပ်သဘောကျ

http://www.dhammadownload.com



သွားပြီး "ဟာ - ဒီလူကတော့ လောကမှာ အပျော်ဆုံးလူ တစ်ယောက်ဖြစ်တယ်၊ ဝတ်ထားတဲ့ design ကလည်း လှတာကိုး နော်၊ ဖက်ရှင်အလှအပ ဝတ်ထားတယ်၊ ဒီဇိုင်းလှတယ်၊ ခေါင်းပေါ် ကလည်း ကြာပန်းကြီးပန်လို့၊ တစ်ကိုယ်လုံးလည်းပဲ နံ့သာတွေ လိမ်းထားလိုက်တာကိုး၊ မိတ်ကပ်တွေကလည်း ကောင်းလိုက် တာ"၊ သွေးတွေကျနေတာကို မိတ်ကပ်တွေ လိမ်းထားတယ်လို့ ထင်တယ်၊ ဟိုကဖြင့် အော်ဟစ်ငြီးငြူပြီး နာလွန်းလို့ ခုန်ပေါက် နေတာကိုပဲ အဲဒီမှာ pop music နဲ့ ကခုန်နေတယ်လို့ ထင်တာ၊ ခုခေတ် အကကလည်း အဲဒါမျိုးပဲနော်၊ ပူလှချည်ရဲ့လို့ အော်ပြီး ခုန်ပေါက်နေတာ၊ အငြိမ်မှ မနေနိုင်ပဲနဲ့။

အဲဒီလို အခြေအနေမျိုးကို ကြည့်ပြီးတော့ သူက ဘာတွေး တုန်းဆိုတော့ "ဒီလူဟာ ကမ္ဘာမှာ အပျော်ဆုံးလူတစ်ယောက်ပဲ"၊ အနီးကပ်သွားပြီး "ခင်ဗျား ကြာပန်းကြီး ကျုပ်ပေးစမ်းပါဗျာ" လို့ တောင်းတာ၊ ဟိုလူက ကြည့်တယ်၊ "ဟာ၊ သူငယ်ချင်း ဒါ ကြာပန်း မဟုတ်ဘူး၊ ဒါ သင်တုန်းစက်ကြီး" "ခင်ဗျား မပေးချင်လို့ လိမ်တာ ပါ၊ ကျုပ်သိတာပေါ့၊ ကြာပန်းပဲဥစ္စာ"။

ဟိုလူက စဉ်းစားတယ်၊ "ဪ ဒီကောင်လည်း ငါ့လို အမေ စော်ကားလာတဲ့ကောင် ဖြစ်လောက်တယ်၊ ငါတော့ ဝဋ်ကျွတ် တော့မှာပဲ၊ ကဲ-လိုချင်ရင်ယူတော့" ဆိုပြီး ခေါင်းပေါ်က ချွတ်ပေး လိုက်တယ်။

အမှန်ကတော့ ဝဋ်ကျွတ်လို့ ချွတ်လို့ရတာ၊ ဝဋ်မကျွတ်ရင် ချွတ်လို့ မရဘူး၊ ဝဋ်ကျွတ်တော့ ခေါင်းကိုင်လိုက်တာနဲ့ အဲဒီ သင်တုန်းစက်ကြီးက ပြုတ်လာတာ၊ ပြုတ်လာတဲ့ တစ်ပြိုင်နက်

http://www.dhammadownload.com



"ရော့" ဆိုပြီး လှမ်းပစ်ပေးလိုက်တယ်၊ သူ့ခေါင်းပေါ် ရောက်သွားတယ်၊ ခေါင်းပြောင်းလိုက်ပြီ။ ခေါင်းပေါ်ရောက်တာနဲ့ သင်တုန်းစက်က ခုတ်တော့တာပဲ။ ခုတ်လိုက်ပြီဆိုမှ ကြာပန်းမဟုတ်ဘူးမှန်းသိတယ်တဲ့၊ အဲဒါပြောတာ "ထိပ်ချမှ ဓားပြမှန်း"သိတယ်ဆိုတာ။ အဲဒီကျတော့ "ခင်ဗျားဟာကြီး ပြန်ယူပြန်ယူ" လို့ အော်တော့ဟိုလူက ဘယ်ရောက်သွားမှန်း မသိတော့ဘူး၊ အဲဒါ အရှင်လတ်လတ် ငရဲခံရတယ်ပေါ့။

စာထဲမှာတော့ အရှင်လတ်လတ်ပုံစံမျိုး ရေးထားတယ်၊ သို့သော်လည်း အဲဒီဇာတ်ရာနဲ့ သူဟာ သေဆုံးသွားပြီး ဒီနေရာမှာပဲ ပြန်မွေးတယ်လို့ ယူဆရမှာပေါ့၊ ဘာဖြစ်လို့တုန်းဆိုတော့ လူ့ရဲ့ သန္ဓေစိတ်နဲ့ ငရဲသားတွေနဲ့သန္ဓေစိတ်က တူမှ မတူတာနော်၊ အဲဒီတော့ အရှင်လတ်လတ် ငရဲခံရတယ်လို့ ပြောချင်ပြော၊ သို့မဟုတ် မိတ္တဝိန္ဒကဟာ သင်တုန်းစက်ကြီးနဲ့ လူစင်စစ်ဆိုရင် အကြာကြီး ဘယ်အခုတ်ခံနိုင်မလဲ၊ လူစင်စစ် မဟုတ်တော့ဘူး၊ သင်တုန်းစက်လည်တဲ့အခါ သွေးတွေ အထွက်လွန်ပြီး သေမှာပေါ့၊ အဲဒီနောက်မှာတော့ ကံမကုန်မချင်း ငရဲသားဘဝ ခံနေရပြီ၊ ဒါလည်း ၅၅၀ ဇာတ်ထဲမှာ ပါတယ်။

ရုက္ခစိုးနတ်ကြီးတစ်ဦး အခြံအရံတွေနဲ့ အနီးနားရောက်လာတဲ့အခါ "သူ ဘာကြောင့် ဒီလိုဖြစ်ရသလဲ" ဆိုတော့ "မင်းအမေ ပစ်မှားခဲ့လို့ ဒီလိုဖြစ်ရတာ" လို့ ရုက္ခစိုးနတ်ကြီးက ပြန်ဖြေတယ်။ "ဒါဖြင့် ကျွန်တော်ဘယ်လောက်အထိအောင် ခံရမှာတုန်း၊ ဒီဝဋ်က ဘယ်တော့ ကျွတ်မှာတုန်း" ဆိုတော့ "မင်းကံ မကုန်မချင်း ခံရ

http://www.dhammadownload.com



မယ်” လို့ အဲလို ပြောသွားတယ်၊ ဒါ ၅၅၀ ဖတ်ကြည့်ရင် တွေ့မယ် နော်၊ ဒါ ဥပဓေဇ္ဇဒကကံနဲ့ သေတာ။

ဥပဓေဇ္ဇဒကနဲ့ သေတာတွေက အများကြီး၊ နတ်ပြည် တွေမှာလည်း ရှိတယ်၊ နတ်ပြည်တွေမှာလည်း **“ခိဍ္ဍာပဒေါသိက”** **‘မနောပဒေါသိက’** နတ်ဆိုတာတွေရှိတယ်၊ ဒီဃနိကာယ် ဗြဟ္မဇာလ သုတ်မှာ အဲဒီနတ်တွေအကြောင်း ဟောထားတာ ရှိတယ်၊ **ခိဍ္ဍာပဒေါသိက**နတ်ဆိုတာ **ခိဍ္ဍာ–** ဆိုတာ ပျော်ရွှင်တာ, အပျော် လွန်တာ၊ အပျော်လွန်လို့ **ပဒေါသိက–** ဘဝကြီးတစ်ခုလုံး ပျက်စီး သွားတယ်။

ပြီလ သင်္ကြန်ကျတဲ့အခါ အဲဒီ **ခိဍ္ဍာပဒေါသိက** တွေ အများကြီးပဲ။ အပျော်လွန်ပြီးတော့ လူ့ပြည်မှာလည်း ရှိတာပဲ၊ နတ်ပြည်မှာ **ခိဍ္ဍာပဒေါသိက**နတ်ဆိုတာ ကာမဂုဏ်အာရုံတွေနဲ့ သိပ်ပြီးပျော်နေတော့ စားရမယ့်အချိန် သောက်ရမယ့်အချိန်တွေ မေ့တာ၊ လူ့ပြည်က ကလေးတွေတောင်မှ ကစားနေတယ်ဆို အမေလုပ်တဲ့သူ အဖေလုပ်တဲ့သူက အတင်းခေါ်ကျွေးရတယ် လေ၊ နတ်ပြည်မှာ ဒီ့ထက်ကောင်းတာပေါ့၊ နတ်ပြည်မှာလည်းပဲ pop music တွေရှိမှာပဲ။

နတ်ဆိုတာ တစ်နေ့တစ်ခါ နတ်သုဒ္ဓါကို အချိန်မှန် စားရ တယ်၊ သူတို့လည်း **သဗ္ဗေသတ္တာ အာဟာရဋ္ဌိတိကာ** ထဲပါတယ်၊ အာဟာရစားရတာ။ ဗြဟ္မာကျတော့ **ပီတိဘက္ခာ၊** ပီတိနဲ့ နေတာ၊ အစာစားစရာ မလိုတော့ဘူး။ နတ်တွေကျတော့ သူတို့တွေရဲ့ ခန္ဓာကိုယ်က ကဗဠီကာရ အာဟာရ အစာကြမ်းလေးတစ်ခု စားပေးရတယ်၊ အဲဒီ အစာအာဟာရလေးတစ်ခု စားပေးမှ

http://www.dhammadownload.com



အတွင်းထဲက အစာအာဟာရနဲ့ အပြင်ဘက်က အစာအာဟာရ ပေါင်းပြီး ခန္ဓာကိုယ်ကို maintain လုပ်နိုင်တယ်တဲ့။

နတ်တွေရဲ့သန္တာန်မှာရှိတဲ့ ပါစက တေဇော အစာချက်တဲ့ တေဇောဓာတ်ကို ထိန်းပေးဖို့ အစာအာဟာရကို ပုံမှန်စားရတယ်၊ အပျော်လွန်တဲ့အခါ အစာစားချိန် မစားဘဲနဲ့ လွန်သွားတာ၊ အချိန်လွန်သွားတဲ့အခါ ဝမ်းမီးက သူတို့ ခန္ဓာကိုယ်ကို လောင်တာ၊ ဝမ်းမီးလောင်ပြီး ခုခေတ်လူတွေ ပြောသလိုပေါ့၊ အစာအိမ်က acid ဓာတ်တွေ ထွက်လာပြီး gastritis ဖြစ်တယ်ပေါ့၊ အစာအိမ် ရောဂါရတယ်။

လူတွေကျတော့ လူရဲ့ ခန္ဓာကိုယ် တည်ဆောက်ပုံက ကြမ်းတမ်းတယ်၊ လူတွေ သေသွားတဲ့အခါ လူအကောင်လိုက်ကြီး ကျန်ရစ်တယ်၊ နတ်တွေရဲ့ ခန္ဓာကိုယ်က အဲဒီလို မဟုတ်ဘူး၊ လူတွေရဲ့မျက်စိနဲ့ မမြင်ရလောက်အောင် သိမ်မွေ့တယ်၊ သေသွား ရင်လည်း ပျောက်သွားရော၊ ဘာမှမကျန်ရစ်ဘူး၊ နတ်အလောင်း နတ်မသာချစရာ မလိုဘူး၊ ဂူတည်စရာ မလိုဘူးနော်၊ သေသွားရင် ပျောက်သွားရော၊ တစ်ခါတည်း မီးတောက်ကလေး ငြိမ်းသလို ငြိမ်းသွားတယ်၊ လူတွေကျတော့ အလောင်းကျန်ရစ်တယ်၊ ဥတုဇ ရုပ်ကလာပ် တဲ့၊ ဥတုဇရုပ်ကလာပ် ဆိုတာကြီးကို သင်္ဂြိုဟ်နေရ တာ သင်္ဂြိုဟ်စရိတ်တွေ တက်လာတာပေါ့။

နတ်တွေရဲ့ ခန္ဓာကိုယ်က အလွန်သိမ်မွေ့တဲ့အတွက်ကြောင့် သူတို့ရဲ့ ပကတိရုပ်အဆင်းကို လူသားတွေရဲ့ ပကတိမျက်စိနဲ့ မြင်လို့မရဘူး၊ သူတို့က ရုပ်ကြမ်းဖန်ဆင်းပြတော့မှ မြင်ရတယ်၊ အဲဒီနတ်တွေ စားချိန်လွန်ရင် အချိန်လွန်သည့်အတွက်ကြောင့်

http://www.dhammadownload.com



စုတိစိတ်ကျပြီးတော့ သေရော၊ အဲလို နတ်မျိုးကို **ခိဍ္ဍာပဒေါသိက** နတ်လို့ ခေါ်တာပဲ၊ ဥပစ္ဆေဒကကံနဲ့ သေတယ်လို့ ပြောရမယ်၊ သေပုံသေနည်းက ဥပစ္ဆေဒကကံဆိုတာ ကံချည်းမဟုတ်ဘူး၊ ဖြစ်ပေါ်လာတဲ့ ဖြတ်တောက်ပစ်လိုက်တဲ့ အကြောင်းတရား အားလုံးကို လယ်တီဆရာတော်ကြီးကတော့ ပြောထားတယ်။

နောက်တစ်ခါ **မနောပဒေါသိက** နတ်ဆိုတာလည်း ရှိသေးတယ်၊ **မနောပဒေါသိက** ဆိုတာ စိတ်ဆိုးလို့ သေတာ၊ လူတွေကျတော့ စိတ်ဆိုးရုံနဲ့သေတာရှားတယ်။ သေတဲ့သူက heart attack နဲ့ နှလုံးရောဂါရှိရင်တော့ စိတ်ဆိုးရင် သေတာ၊ ဒါ့ပြင် ရောဂါနဲ့ သေချင်သေမှာပေါ့၊ လူ့ရဲ့ ခန္ဓာကိုယ်က ကြမ်းတယ်၊ နတ်တွေကျတော့ စိတ်ဆိုးခံလို့ မရဘူး၊ စိတ်ဆိုးလို့ရှိလျှင် နတ်က သေမှာ၊ လူတွေလည်း စိတ်ဆိုးလို့သာ သေမယ်ဆိုရင် စိတ်ဆိုးရဲမှာ မဟုတ်ဘူး။

အဲဒီနတ်တွေ ဘယ်လို စိတ်ဆိုးကြလဲဆိုရင် နတ်တွေ ဥယျာဉ်သွားကြတယ်၊ သွားတဲ့အခါ လမ်းမှာ ဆုံကြတယ်ပေါ့၊ တစ်ဦးနဲ့တစ်ဦး စည်းစိမ်ချမ်းသာချင်းက မတူဘူး၊ အတိတ်ဘဝက ကံရှိရင်ရှိသလို တောက်တောက်ပြောင်ပြောင်၊ လူတွေမှာလည်း ရှိတာပေါ့၊ ဒီလူက ကားကောင်းကြီး စီးလာတယ်၊ ဟိုလူက ကားစုတ် စီးလာတယ်၊ ကားစုတ် စီးလာတဲ့သူက ကားကောင်း စီးလာတဲ့သူကို မနာလိုတဲ့အကြည့်နဲ့ ကြည့်တယ်။

အဲဒါမျိုးလိုပဲ နတ်တွေမှာလည်း အခြံအရံနဲ့ ခမ်းခမ်းနားနားကြီးထွက်လာတဲ့အခါ အခြံအရံနည်းနည်းနဲ့ မတောက်ပြောင်တဲ့နတ်က ကြည့်တာပေါ့၊ ကြည့်တဲ့အခါ မျက်စောင်းလေး

http://www.dhammadownload.com



ထိုးပြီးတော့ ကြည့်တယ်၊ မျက်စောင်းလေးထိုးကြည့်ပြီး မေးငေါ့တယ်၊ အဲလို မေးငေါ့တာကို ဟိုနတ်ကလည်း မြင်တယ်၊ ဒီကောင် ငါ့ကို မနာလို ဖြစ်နေတယ်။ သူကလည်း ပြန်ပြီးတော့ ငါ့ကုသိုလ်ကံနဲ့ ငါဖြစ်တာ၊ မင်းနဲ့ ဘာဆိုင်လို့လဲ ဆိုပြီးတော့ ပြန်စိတ်ဆိုးတယ်၊ ဒီကနတ်ကလည်း "ဒီကောင် ကြွားတားတားနဲ့" ဆိုပြီး စိတ်ဆိုးတယ်၊ ၂-ယောက် စိတ်ဆိုးတဲ့အခါ ဟိုနတ်ကလည်း စိတ်ဆိုး၊ ဒီနတ်ကလည်း စိတ်ဆိုးနဲ့၊ စိတ်ဆိုးတယ်ဆိုတာ သိသာတယ်၊ စိတ်ဆိုးတဲ့မျက်နှာ မသိသာဘူးလား၊ သိသာပါတယ်၊ သိသာသည့်အတွက်ကြောင့် ဟိုကလည်း စိတ်ဆိုး၊ ဒီကလည်း စိတ်ဆိုး၊ ဒါပေမယ့် လူတွေလိုတော့ ထ, မထိုးကြပါဘူး၊ စိတ်ဆိုးတာပဲ ရှိတယ်။

အဲသလို ကိုယ့်ရဲ့ဒေါသကို မထိန်းနိုင်တဲ့အခါ အဲဒီနတ်တွေ တစ်ဦးဒေါသ တစ်ဦးကူးပြီးတော့ "မင်းနဲ့ ဘာဆိုင်လို့ ကြည့်ရတာတုန်း"၊ ဟိုကလည်းပဲ "ငါ့ဟာငါကြည့်တာ မင်းနဲ့ ဘာဆိုင်တုန်း" ဆိုပြီးတော့ ယော ဒေါသတွေ မထိန်းနိုင်ကြဘူး။ အဲဒီနတ်နှစ်ယောက်စလုံးဟာ ဒေါသမီးအလောင်ခံရပြီး ပျောက်ကွယ်သွားကြတယ်၊ သေဆုံးသွားကြတယ်တဲ့၊အဲဒီနတ်မျိုးကို **မနောပဒေါသိက** နတ်လို့ခေါ်တယ်၊ အဲလို သေတဲ့နတ်လည်းရှိတယ်၊ ဒါလည်း ဥပစ္ဆေဒကမရဏလို့ ခေါ်ရမှာပဲ။

အေး တခြား ဥပစ္ဆေဒကတွေထဲမှာ လယ်တီဆရာတော်ဘုရားကြီးတော့ ရောဂါဖြစ်လို့ သေတာတွေလည်း ဥပစ္ဆေဒကမရဏထဲမှာ ထည့်ထားတယ်၊ ဘာဖြစ်လို့တုန်းဆိုတော့ ရောဂါက ကံကြောင့်ချည်းဖြစ်တာ မဟုတ်ဘူး၊ လေကြောင့်ဖြစ်တဲ့ ရောဂါ

http://www.dhammadownload.com



ရှိတယ်- **ဝါတသမုဋ္ဌာန**နော်၊ သလိပ်ကြောင့်ဖြစ်တဲ့ ရောဂါရှိတယ်- **သေမှသမုဋ္ဌာန**၊ သည်းခြေကြောင့်ဖြစ်တဲ့ရောဂါ- **ပိတ္တသမုဋ္ဌာန**၊ နောက် **ဥတုပရိဏာမ** - ဥတုပြောင်းလဲလို့ ရောဂါရတာတဲ့၊ **ဝိသမပရိဟာရ** - အနေအထိုင် မတတ်လို့ ရောဂါရတာတဲ့၊ **ဩပက္ကမိက**၊ သူလုပ်လို့၊ ကိုယ့်လုပ်လို့ကြောင့် ရောဂါရတာ၊ **သန္နိပါတ**– လေ၊ သလိပ်၊ သည်းခြေ သုံးခုဖြစ်စေ၊ နှစ်ခုဖြစ်စေ ပေါင်းပြီးတော့ ရောဂါရတာ။ နောက်ဆုံးကတော့ **ကမ္မဝိပါကဇ**- ကံရဲ့အကျိုး အနေနဲ့ ဖြစ်ပေါ်လာတဲ့ရောဂါလို့ ရောဂါရှစ်မျိုးရှိတယ်။

လေကြောင့်ဖြစ်တဲ့ ရောဂါ၊ သလိပ်ကြောင့်ဖြစ်တဲ့ ရောဂါ၊ သည်းခြေကြောင့်ဖြစ်တဲ့ရောဂါ၊ သန္နိပါတရောဂါ၊ ဥတုပရိဏာမ၊ ဝိသမပရိဟာရဇ၊ ဩပက္ကမိက (စုန်းတွေ နတ်တွေ ကိုယ့်ကို ပြုစားခံရတာ အပါအဝင်)၊ ကမ္မဝိပါကဇ ဆိုပြီးတော့ "သီဝက သုတ်" မှာ ရောဂါ ၈-မျိုး ပြထားတယ်၊ သံယုတ်ထဲမှာ အဲဒီသုတ် ပါတယ်။

အဲဒီလို ရောဂါ ၈-မျိုးထဲက ကမ္မဝိပါကဇနဲ့ ကျန်တဲ့ ၇-မျိုး က လူတွေရဲ့သန္တာန်မှာ ဖြစ်ပေါ်လာလို့ ဒီလူဟာ ဒီရောဂါကြောင့် သေဆုံးရတယ်ဆိုလို့ရှိရင် ဒါလည်းပဲ ဥပစ္ဆေဒကမရဏပဲလို့ လယ်တီဆရာတော်ကြီးက ဒီလိုရေးတယ်နော်၊ သေလောက် အောင် ရောဂါတစ်ခု ဖြစ်လာလို့ သက်တမ်းမစေ့ခင် ကံမကုန်ခင် သေသွားတယ်လို့ ဒီလိုဆိုတယ်၊ အဲဒီတော့ လူ့လောကမှာ ရှာကြည့်မယ်ဆိုရင် အများကြီးပေါ့။

ဩပက္ကမိတဆိုတာ သူများက သတ်လို့ သေတယ်၊ ကားက ကိုယ့်ကို ဝင်တိုက်သွားလို့ သေတယ်၊ နောက် ကိုယ့်ဟာကိုယ်

http://www.dhammadownload.com



အိမ်ပေါ်က လိမ့်ကျလို့သေတယ်၊ ကိုယ့်ဟာကိုယ် သတ်သေတယ်၊ အမျိုးစုံပေါ့၊ မတော်တဆ သေနတ်မှန်လို့သေတယ်၊ ဘာဖြစ်လို့ သေတယ်၊ ညာဖြစ်လို့ သေတယ်၊ အများကြီးပဲပေါ့၊ လူ့လောက လူဖြစ်လာတယ် ဆိုလို့ရှိရင် အဲဒီ သေခြင်းအကြောင်း လေးမျိုး ထဲက တစ်ခုခုနဲ့ လူတွေ သတ္တဝါတွေဟာ သေဆုံးကြရတယ်တဲ့။

သေဆုံးပြီဆိုလိုက်တဲ့ အချိန်ပိုင်းလေးမှာ ဘယ်လိုနည်းနဲ့ပဲ သေသေ သေခါနီးအချိန်မှာ လူ့ရဲ့နှလုံးသားဟာ အားပျော့လာတယ်၊ အားပျော့လာတဲ့အတွက်ကြောင့် "မရဏာသန္နဇော"လို့ သေခါနီးမှာ ဇောစိတ်တွေ ဖြစ်လာတယ်၊ အဲဒီဇောစိတ်တွေဟာ ဘာကို အာရုံယူပြီးတော့ ဖြစ်တုန်းဆိုလို့ရှိရင် သေခါနီးဆဲဆဲမှာ လူဟာ မျက်စိက မြင်တာပဲဖြစ်စေ, နားက ကြားတာပဲဖြစ်စေ သို့မဟုတ် စိတ်ထဲမှာ အိပ်မက်မက်သလို ပေါ်တာမျိုးပဲဖြစ်စေ မျက်စိကလည်း မြင်လို့ရတယ်၊ ကံ ကမ္မနိမိတ် ဂတိနိမိတ်ကို အာရုံယူပြီးဖြစ်တယ်။

သေခါနီးမှာ ပဋိသန္ဓေကို အကျိုးပေးမယ့် ကံတရားရဲ့ စွမ်းအား သို့မဟုတ် ထင်ဟပ်ပေါ်လွင်စေတတ်တဲ့ ကံရဲ့စွမ်းအား၊ အဲဒီကံရဲ့စွမ်းအားကြောင့် နောင်ဘဝမှာ ပဋိသန္ဓေအကျိုးပေးမယ့် ကံကိုသော်လည်းကောင်း, ထိုကံပြုနေတဲ့ အချိန်ကာလ အခြေအနေကိုသော်လည်းကောင်း, သွားရမယ့် ဘဝရဲ့အရိပ်အယောင်ကိုသော်လည်းကောင်း ဒီတစ်ခုခုကို မြင်ပြီးတော့ အဲဒီစိတ်က အဲဒီအာရုံနဲ့ပဲ နစ်မြောနေတဲ့အချိန်မှာ စုတိစိတ်ကလေး ကျသွားတယ်။

http://www.dhammadownload.com



မသေခင်ကတည်းက ကံ ကမ္မနိမိတ် ဂတိနိမိတ်ဆိုတဲ့ အာရုံ တစ်ခုခုကို အာရုံပြုထားသည့်အတိုင်း ထိုအာရုံကို အဝိဇ္ဇာက ဖုံးကွယ်ပေးတယ်၊ အပြစ်အနာဆာ မမြင်ရအောင် ဖုံးကွယ်ပေး တယ်၊ တဏှာက တွယ်တာတယ်၊ အာရုံပေါ်မှာ စိတ်ကိုညွတ်သွား စေတယ်၊ အဲသလို ညွတ်သွားပြီးတော့ ထိုတွေးတောနေတဲ့ စိတ် အစဉ်, ထိတ်လန့်ကြောက်လန့်နေတဲ့စိတ်အစဉ်၊ အဲဒီ စိတ်အစဉ် တွေ ဖြစ်နေတဲ့အချိန်မှာ သေဆုံးမှုဆိုတဲ့ စုတိစိတ်ကလေးက ပေါ်လာတယ်လို့ ဒီလိုပြောတာနော်။

အဲဒီစုတိစိတ်ကလေး ပေါ်လာလိုက်တာနဲ့ တစ်ပြိုင်နက် ဒီဘဝမှာရှိတဲ့ ကမ္မဇရုပ်အားလုံးလည်း ချုပ်ငြိမ်းသွားတယ်၊ ကံကြောင့်ဖြစ်တာတွေမှန်သမျှ အတိတ်ဘဝကလာခဲ့တဲ့ ပဋိသန္ဓေ အကျိုးကို ပေးခဲ့တဲ့ ကံတရားရဲ့ အကျိုးဆက်တွေအားလုံးဟာ အပြီးသတ်သွားပြီ၊ အဲဒါကို တစ်ဘဝလို့ခေါ်တာ၊ ပဋိသန္ဓေ အကျိုးကို ပေးလိုက်တဲ့ကံ၊ ထို ပဋိသန္ဓေအကျိုးကို ပေးလိုက်တဲ့ ကံကနေထုတ်လုပ်တဲ့ ကမ္မဇရုပ်တွေ၊ အဲဒါတွေဟာ တစ်ပြိုင်နက် ချုပ်ပြီးတော့ သွားကြတယ်တဲ့၊ ချုပ်သွားလို့ရှိရင် သေတယ်လို့ သတ်မှတ်ရတယ်။

အဲဒီတော့ သေတယ်လို့ သတ်မှတ်တာက နှလုံးခုန်ရပ်သွား တာနဲ့တင် သေတယ်လို့ သတ်မှတ်လို့ မရဘူးနော်။ ပိဋကတ် စာပေအရ ပြောမယ်ဆိုရင် သေတယ်ဆိုတာ အင်္ဂါ ၃-ချက် ညီမှသာ ပြောရမယ်တဲ့၊ ဘာတုန်းဆိုရင် -

**"အာယု ဥသ္မာစ ဝိညာဏံ၊**
**ယဒါ ကာယံ ဇဟန္တိမံ၊**

http://www.dhammadownload.com



**အပဝိဒ္ဓေါ တဒါသေတိ၊**

**နိရတ္ထံဝ ကဋိင်္ဂရံ”** တဲ့။ သံယုတ္တနိကာယ် ဖေဏပိဏ္ဍူပ သုတ်မှာ ဆိုထားတာ။

**အာယု–** ခန္ဓာကိုယ်ရဲ့ ရုပ်ဓမ္မ နာမ်ဓမ္မတွေကို ထိန်းသိမ်း စောင့်ရှောက်တဲ့ ဇီဝိတဆိုတဲ့ အသက်၊ အဲဒါလည်းပဲ ချုပ်ငြိမ်း သွားတာ ဖြစ်ရမယ်တဲ့၊ **ဉသ္မာ**–ကံကြောင့်ဖြစ်တဲ့ တေဇောဓာတ် အငွေ့ ခန္ဓာကိုယ်အငွေ့ ကံကြောင့်ဖြစ်တဲ့ဟာလည်းပဲ ဆက်လက် မဖြစ်ပေါ်တော့ဘူး၊ အသစ်မလာတော့ဘူးပေါ့၊ အဟောင်းက တော့ ရှိကောင်း ရှိနေဦးမယ်ပေါ့၊ ကမ္မဇရုပ်ကလည်း ချုပ်ငြိမ်း သွားတယ်တဲ့၊ တေဇောဓာတ်လည်း ချုပ်ငြိမ်းသွားတယ်၊ **ဝိညာဏ–** လို့ဆိုတဲ့ ဘဝင်စိတ်အစဉ်၊ စိတ်အားလုံးဟာလည်းပဲ ချုပ်ငြိမ်းပြီး သွားတယ်၊ အဲဒီ **“အာယု၊ ဉသ္မာ၊ ဝိညာဏ”** လို့ဆိုတဲ့ ဒီ ၃-ခု ချုပ်သွားပြီ၊ လုံးဝ ရပ်ဆိုင်းသွားပြီဆိုရင် ဒါသေတယ်လို့ သတ်မှတ် ရတယ်၊ အဲဒါမဟုတ်ဘဲနဲ့ အသက်မရှူတော့တာနဲ့ သေတယ်လို့ ဆိုပြီး သွားဆုံးဖြတ်ရင် ပြဿနာတွေတက်မယ်၊ ခုခေတ်မှာလည်းပဲ ဒါမျိုးတွေ ရှိတတ်တယ်နော်။

ဘုန်းကြီးတို့ငယ်ငယ်က သတင်းစာတစ်စောင်မှာ ဖတ်ဖူး တယ်၊ ဗမာပြည်မှာလည်း ဒီလိုဝတ္ထုတွေရှိတာပဲ၊ ဘင်္ဂလားဒေ့ရှ်မှာ ဖြစ်ခဲ့တဲ့ ဝတ္ထုလေးတစ်ခု၊ သတင်းစာ အပိုင်းအစလေးထဲမှာ ဖတ်ရတာ၊ အဲဒီ ဘင်္ဂလားဒေ့ရှ်မှာ လူတစ်ယောက်ကို သေပြီလို့ ဆရာဝန်ကနေ နားကြပ်နဲ့ထောက် ဆုံးဖြတ်လိုက်တာ၊ သူက တခြားဘာသာဝင်ဆိုတော့ နေ့ချင်းရက်ချင်း သူ့ကို သွားမြှုပ်လိုက် ကြတယ်၊ မြှုပ်တဲ့အခါမှာ ခပ်ဖွဖွမြှုပ်တယ်၊ သူကို မီးသဂြိုဟ်

http://www.dhammadownload.com



လိုက်ရင်တော့ အစပါ ပျောက်သွားမှာပေါ့နော်၊ မြေကြီးထဲ မြှုပ်လိုက်တယ်၊ ၅-နာရီလောက်ကြာတဲ့အခါ ပြန်သတိလည်လာတယ်၊ သတိလည်လာတဲ့အခါ လူငယ်လူရွယ်ဆိုတော့ အားကောင်းတယ်၊ မြေကြီးပုံထဲကနေ တွန်းပြီးတော့ ထွက်လာတယ်၊ အိမ်ပြန်လာတယ်၊ အိမ်ကလူတွေက ကြောက်လို့ လက်မခံရဲဘူး၊ သေလို့ မြှုပ်ထားပြီး အိမ်ပြန်ရောက်လာတယ်ဆိုတော့ တစ္ဆေလို့ အောက်မေ့မှာပေါ့နော်၊ အဲဒီအခါမှာ ဆုံးဖြတ်ချက်ပေးတဲ့ ဆရာဝန်ကို တရားစွဲတယ်ဆိုတဲ့ ဇာတ်လမ်းလေးတစ်ခုတွေ့တယ်။

ဒါထက် အဖြစ်အပျက် လွန်ခဲ့တဲ့ ၄-၅ နှစ်က ထင်ပါရဲ့၊ မန္တလေးမှာလည်း အဲသလို အဖြစ်အပျက်မျိုး တစ်ခုကြုံတယ်၊ တရုတ်အမျိုးသမီးလေးတစ်ယောက်၊ သေပြီဆိုပြီး ကြာနီကန် သုသာန်ပို့တယ်၊ သုသာန်ဝ ရောက်တဲ့အခါ သတိလည်လာတယ်၊ ဒီတော့ မင်္ဂလာမရှိတော့ဘူး ဆိုပြီးတော့ အဲဒီကလေးမလေး အိမ်ပြန်မခေါ်ဘူးတဲ့၊ အိမ်ပြန်မခေါ်ဘဲနဲ့ အဲဒီသုသာန်နားမှာပဲ တိုက်ကလေးဆောက်ပေးထားတယ်လို့ ပြောတယ်။

ဒါကြောင့်မို့လို့ ရှေးတုန်းက လူတစ်ဦးသေတယ် ဆိုလို့ရှိရင် ၇-ရက်လောက် ထားလေ့ရှိကြတယ်၊ အခုတော့ အဲလို မထားကြဘူး၊ ဒီနေ့သေ မနက်ဖြန် သင်္ဂြိုဟ်။ လုပ်ပစ်လိုက်ကြတဲ့အခါ ကံမကောင်းအကြောင်းမလှတဲ့သူတချို့ ရေခဲတိုက်ထဲ ပို့လိုက်တယ်၊ ရေခဲတိုက်ထဲ ဝုန်းဒိုင်းလုပ်နေတော့ သရဲခြောက်တယ် ဆိုပြီး အရိုက်သတ်ခံနေရဦးမယ်။

တစ်ခါတုန်းက ပြောသံကြားဖူးတယ်၊ တောရွာတစ်ရွာမှာ အသက်ကြီးကြီး လူကြီးတစ်ယောက် သေပြီဆိုပြီး သွားမြှုပ်ကြ

http://www.dhammadownload.com



တယ်၊ မြှုပ်မလို့ တွင်းထဲထည့်ပြီး မြေကြီး တစ်ဂေါ်နှစ်ဂေါ် ထည့်လိုက်ခါရှိသေး၊ သူက ပြန်သတိလည်လာပြီး ရေတောင်းတယ်၊ အဲဒီလို အသက်ရှင်တာကို ကယ်ရမယ့်အစား မကယ်ဘဲနဲ့ ကြောက်ကြောက်နဲ့ ခေါင်းကို တူနဲ့ထုပြီး ပြန်ပြီး မြှုပ်လိုက်သတဲ့၊ အဲသလို ဇာတ်လမ်းတွေလည်း ကြားဖူးတာပဲ၊ ဒီတော့ ဘဝဆိုတာ ကံတရားအတိုင်းပဲလို့ မြန်မာတွေ တွေးတဲ့အတိုင်းတွေးရင် စိတ်သက်သာတာပေါ့နော်။

အဲဒါကြောင့်မို့လို့ သေဆုံးခြင်းဆိုတာ အာယု၊ ဥသ္မာ၊ ဝိညာဏ်ရယ်၊ အဲဒီ ၃-ခု ချုပ်ငြိမ်းသွားပြီဆိုမှ ဖြစ်တာ။ အဲဒီ ခန္ဓာကိုယ် ကြီးက အပူဓာတ် temperature တွေလည်းပဲ လုံးဝ ချုပ်ငြိမ်းသွားတယ်၊ ဇီဝိတဆိုတဲ့အသက်လည်း ချုပ်ငြိမ်းသွားတယ်၊ ဝိညာဏ်ဆိုတဲ့ စိတ်လည်း ချုပ်ငြိမ်းသွားပြီဆိုလို့ရှိရင်တော့ ဒါ လုံးဝသေတယ်လို့ ဒီလိုမှတ်ချက်ချရတယ်၊ ဆေးပညာအရတော့ တမျိုး ယူကောင်းယူလိမ့်မယ်ပေါ့၊ ဗုဒ္ဓဘာသာရဲ့ ကျမ်းစာအရ ကတော့ အဲဒီအတိုင်းပဲ၊ အဲဒီအကြောင်း ၃-မျိုး ချုပ်ငြိမ်းပြီဆိုရင် သေပြီလို့ သတ်မှတ်တယ်တဲ့၊ ကဲ - သေခြင်းအကြောင်း သေပုံ သေနည်း ၄-မျိုးတဲ့။

ဒီလို သေတဲ့အခါမှာ အာရုံနိမိတ်တွေက အင်မတန်မှ အရေးကြီးတယ်၊ ပြောင်းလဲပေးလို့ရတဲ့ အာရုံနိမိတ်တွေရှိတယ်၊ သေခါနီးမှာ မိမိရဲ့ကံအားလျော်စွာ ကောင်းတာတွေလည်း ထင်၊ မကောင်းတာတွေလည်း ထင်၊ အဲဒီတော့ ဗုဒ္ဓဘာသာဝင်တွေ အနေနဲ့ကတော့ နောက်ဆုံးအချိန် ရောက်နေတဲ့ ပုဂ္ဂိုလ် တစ်ယောက်ကို အနီးအနားမှာဟိုပြောဒီပြောမပြောဘဲနဲ့ အားပေး

http://www.dhammadownload.com



စကားလေးပဲပြောပြီး စိတ်ချမ်းသာအောင်ထားဖို့၊ ငြိမ်ငြိမ်သက်သက်နဲ့ အားပေးစကားပြောပြီး သူနှစ်သက်တဲ့ တရားလေးဖွင့်ပြ၍ဖြစ်စေ အဲသလို အေးအေးချမ်းချမ်း သေခွင့်ရအောင်ထားဖို့ ကောင်းတယ်ပေါ့။

အဲဒီအချိန်ကျမှ ဘဏ်စာအုပ်က ဘယ်ထားခဲ့တုန်းတွေ ဘာတွေ မမေးသင့်ဘူးပေါ့နော်၊ လက်စွပ်က ဘယ်သူ့ပေးထားခဲ့တုန်း၊ ဘယ်အပ်ထားတုန်း၊ ဘယ်အပေါင်ဆိုင်တွေ ထားတာတုန်းတွေ ဘာတွေ မမေးသင့်ဘူးပေါ့၊ မေးလျှင် အဲဒီလူဟာ လမ်းဖြောင့်မှာ မဟုတ်ဘူး၊ ဒုက္ခ ရောက်တတ်တယ်တဲ့။

တချို့ကလည်း မသေခင်ကငိုတာ ရှိသေးတယ်၊ ငိုရင် ပိုပြီးတော့ ဆိုးတယ်၊ သူ့မှာ ဒေါမနဿတွေဖြစ်ပြီးတော့ သေဆုံးသွားတတ်တယ်၊ အဲဒီတော့ သေခါနီးမှာ သိပ်အရေးကြီးတယ်။

ဘုန်းကြီးတို့ စစ်ကိုင်းမှာ ဆရာတော်ကြီးတစ်ပါး ဒီအတိုင်းပဲ၊ သေခါနီးအချိန် ဆလိုင်းသွင်းပေးတာပေါ့လေ၊ ရမလားလို့ ပြုစုတဲ့ပုဂ္ဂိုလ်တွေက လုပ်တယ်၊ သူက မသွင်းဖို့ ပြောတယ်၊ ငြင်းတယ်၊ အတင်းသွင်းပေးကြတဲ့အခါကျတော့ သူဘာမှ မပြောတော့ဘူး၊ ဘာမှမပြောပေမယ့်လို့ မကျေနပ်တဲ့ အရိပ်အယောင်တွေပြတယ်၊ အဲဒီ မကျေနပ်တဲ့ အရိပ်အယောင်တွေနဲ့ပဲ ပျံလွန်တော်မူသွားတဲ့အခါ ပြုစုတဲ့ပုဂ္ဂိုလ်တွေပေါ်မှာ စိတ်ကွက်မိလို့တဲ့ တစ္ဆေဖြစ်နေတယ်၊ ဒါ ဒီပြင် လူတစ်ယောက်က ပြောတာ၊ ကောင်းမှုလုပ်ပြီး သူ့အတွက် အမျှအတမ်းပေးဝေပေးပါ၊ အမျှအတမ်းပေးလိုက်တဲ့အခါကျတော့ သူ အထက် နတ်ပြည်ကို သွားတော့မယ်တဲ့ အကြောင်းပြောတယ်၊ ဟုတ်တယ် မဟုတ်တယ်တော့ မသိဘူး၊

http://www.dhammadownload.com



ရန်ကုန်က လူတွေကတော့ လူသေရင် လေချွန်နတ်သွားမေးလေ့ ရှိကြသတဲ့။

လောကမှာ ဘဝဆိုတာ ရှိတာသေချာတယ်၊ အဲဒီတော့ သေခါနီး အာရုံနိမိတ်ဟာ အလွန်တရာမှ အရေးကြီးတယ်တဲ့၊ ဒါကြောင့်မို့ ငြိမ်းငြိမ်းချမ်းချမ်းလေး သေနိုင်အောင် နံပါတ်တစ် ကိုယ့်ကိုယ်ကို ကြိုးစားဖို့ လိုတယ်ပေါ့။ ကိုယ့်နောက်ဆုံးအချိန် ရောက်လာပြီဆိုရင် စိုးရိမ်စိတ်တွေ ကိုယ့်မှာမရှိဖို့၊ အားကိုးတရား နှလုံးသွင်းတရားတွေရှိဖို့၊ ကုသိုလ်ကောင်းမှုတွေကို စဉ်းစားဖို့၊ ဒါလေးတွေက စောစောကြိုတင်ပြီးတော့ လေ့ကျင့်ထားသင့်တယ် ပေါ့၊ မလေ့ကျင့်လို့ရှိရင် ထိုအချိန်ကျမှ ခြေမကိုင်မိ လက်မကိုင်မိ ဖြစ်ပြီး ဘဝခရီးဟာ မဖြောင့်တန်းဘဲ ရှိတတ်ပါတယ်တဲ့။

ဒါကြောင့်မို့ ဘဝခရီးလမ်းဖြောင့်တန်းဖို့ရာအတွက် နေ့စဉ်နဲ့ အမျှ မိမိရဲ့စိတ်ကလေး ကုသိုလ်ကောင်းမှုဘက်ညွှတ်ပြီး နေတတ် အောင်၊ သေတတ်တဲ့ အသေမျိုးလည်း သေတတ်မှာပါ၊ ဒါမို့လို့ တရားလေး နှလုံးသွင်းပြီးတော့ နေတတ်အောင် ဟိုတွေးဒီတွေး မတွေးဘဲနဲ့၊ ဟိုအတွက်စိုးရိမ် ဒီအတွက်စိုးရိမ်, ဟိုဟာတွယ်တာ ဒီဟာတွယ်တာ မရှိဘဲနဲ့ မိမိရဲ့တရားလေးကိုသာ ဆင်ခြင်စဉ်းစား ပြီးတော့ ကိုယ်ကျင့်တရား ကိုယ်စီလက်ကိုင်ထားပြီး ဘဝတစ်ခု ငြိမ်းငြိမ်းချမ်းချမ်းနဲ့ နိဂုံးချုပ်နိုင်ရမယ်၊ ထိုသို့ နိဂုံးချုပ်နိုင်မှသာလျှင် နောက်ဆုံးမှာ အငြိမ်းဓာတ်ဖြစ်တဲ့ နိဗ္ဗာန်ကို မရမချင်း အိုလိုက် နာလိုက် သေလိုက် ဆိုတဲ့ ဆင်းရဲဒုက္ခ ကြုံနေရမှာဖြစ်တယ်၊ နိဗ္ဗာန်ချမ်းသာသည်သာလျှင် အိုခြင်းကင်းရာ နာခြင်းကင်းရာ သေခြင်းကင်းရာ ဖြစ်တယ်လို့ ယုံကြည်ပြီးလျှင် နိဗ္ဗာန်ချမ်းသာကို

http://www.dhammadownload.com



ရရာရကြောင်း သူတော်ကောင်းတရားကို ကြိုးစားအားထုတ်နိုင်ကြပါစေကုန်သတည်း။



http://www.dhammadownload.com

## မှတ်တမ်း

သာသနာတော် သက္ကရာဇ် ၂၅၅၂-ခုနှစ်၊ ကောဇာ သက္ကရာဇ် ၁၃၇၀-ပြည့်နှစ်၊ တန်ခူးလဆန်း ၅-ရက်၊ ရန်ကုန်တိုင်း၊ စမ်းချောင်းမြို့နယ်၊ အောင်ချမ်းသာရပ်ကွက်၊ သီရိမင်္ဂလာလမ်း ကံမြင့်ကျောင်းတိုက် ဓမ္မာရုံတွင် ဆင်ယင်ကျင်းပ ပြုလုပ်သည့် ညဉ့်ဦးယံ ဓမ္မသဘင်ဝယ် စမ်းချောင်းမြို့နယ်၊ သီရိလမ်း၊ အမှတ် ၂၅၀ နေ နှစ်ဖက်သော မိဘများ အမှူးထား၍ ဗိုလ်မှူးကြီး ဝမ်းမောင်(ငြိမ်း)+ဒေါ်ညွန့်ညွန့်ဆွေတို့၏ အမတဒါန ဓမ္မဒါနအဖြစ် ဟောကြားအပ်သော "ဘဝသစ်၌ ပြန်လည်မွေးဖွားခြင်း"အကြောင်း တရားဒေသနာတော် ဖြစ်ပါသည်။

http://www.dhammadownload.com

# အခန်း - ၉

## ဘဝသစ်၌ ပြန်လည်မွေးဖွားခြင်း

ဘဝသစ်၌ ပြန်လည်မွေးဖွားခြင်း ဆိုတာ ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူခဲ့တဲ့ ဒေသနာတော်အရဖြစ်တယ်။ ဓမ္မစကြာ တရားတော်ထဲမှာ "**ယာယံ တဏှာ ပေါနောဗ္ဘဝိကာ** = တစ်ဖန် ဘဝသစ်ကို ဖြစ်စေတတ်သော" လို့ဆိုတယ်။ ထိုထိုသုတ္တန်တွေမှာ လည်း တဏှာကို "**ဘဝနေတ္တိ** = ဘဝကို ဆောင်တတ်တဲ့တရား" လို့ ဘဝတစ်ခုမှတစ်ခုသို့ သယ်ဆောင်သွားတဲ့တရားလို့ ဒီလို ဟောတယ်။

ကံနဲ့ ပတ်သက်လာလို့ ရှိရင်လည်း မြတ်စွာဘုရားက "**ဘဝဂါမိ** = ဘဝကို ဖြစ်စေတတ်တဲ့ကံ" လို့ ဟောတယ်။ ဘဝသစ် ၌ ပြန်လည်မွေးဖွားခြင်းနှင့် စပ်လျဉ်းပြီးတော့ မြတ်စွာဘုရားက "**ပုနဗ္ဘဝ**" ဆိုတဲ့ စကားလုံး သုံးနှုန်းထားတာရှိတယ်။ တမလွန်ဘဝနဲ့ ပတ်သက်ပြီးတော့ အမြင်ရှင်းဖို့ အင်မတန်မှ အရေးကြီးတယ်။

http://www.dhammadownload.com



ဒီနေရာမှာ ဗုဒ္ဓဘာသာဝင်တွေ တမလွန်ဘဝနဲ့ ပတ်သက်ပြီးတော့ အမြင်ရှင်းဖို့ ခက်ခဲတယ်၊ အခြား ဘာသာဝါဒတွေနဲ့ ရောယှက်ပြီးတော့ မှားမှားယွင်းယွင်း ဖြစ်တတ်တယ်။

ဗုဒ္ဓမြတ်စွာကလည်း "ကံနဲ့ သံသရာ" အကြောင်းကို ဟောထားတယ်၊ ကောင်းကံ ဆိုးကံဆိုတာတွေလုပ်လို့ ကောင်းကံ ဆိုးကံတွေက ဖန်တီးတဲ့ဘဝတွေ ရကြတယ်ဆိုတာ ဗုဒ္ဓဘာသာကသာ လက်ခံထားတာ မဟုတ်ဘူး၊ ဗုဒ္ဓမြတ်စွာ ပွင့်ရာဖြစ်တဲ့ အိန္ဒိယနိုင်ငံမှာရှိတဲ့ ဗြဟ္မဏဘာသာ သို့မဟုတ် ဟိန္ဒူဘာသာတို့ကလည်း လက်ခံကြတယ်၊ အခြားဘာသာတွေကလည်း လက်ခံထားတာ ရှိတယ်၊ ကွဲပြားခြားနားမှုကို မသိရင် တူညီတယ်လို့ ထင်မှတ်ကြလိမ့်မယ်၊ မတူညီတဲ့အချက်တွေ အများကြီးရှိတယ်။

သာမန်ကြည့်မယ်ဆိုရင် သူတို့လည်း သံသရာအကြောင်းကို ရှင်းပြတယ်၊ ကံဆိုတာ လက်ခံတယ်၊ ကံနဲ့ သံသရာကို ပြောကြတဲ့နေရာမှာ အသံတူနေသည့်အတွက်ကြောင့် အနှစ်သာရပိုင်းမှာ တူသယောင်ယောင်ဖြစ်ပြီး "ဗုဒ္ဓဝါဒသည် ဟိန္ဒူဝါဒက ပေါက်ဖွားလာတာပါ" လို့ ဟိန္ဒူစာရေးဆရာတွေက ရေးကြတယ်၊ ဘယ်လိုထိအောင် ရေးတုန်းဆိုရင် Buddha was born in Hindu. မြတ်စွာဘုရားက ဟိန္ဒူထဲမှာ ဟိန္ဒူအဖြစ်နဲ့ မွေးလာတယ်တဲ့၊ Buddha was living in Hindu. Buddha died in Hindu ဆိုပြီးတော့ ဟိန္ဒူထဲမှာ မွေး၊ ဟိန္ဒူထဲမှာ နေ၊ ဟိန္ဒူထဲမှာ သေပေါ့၊ အဓိပ္ပာယ်ကတော့ Buddhism ဆိုတာ Hinduism က ပေါက်ဖွားလာတဲ့အရာလို့ ဒီလိုယူဆပြီးတော့ ပြောကြတယ်၊ အဲဒီလို ယူဆ

http://www.dhammadownload.com



ပြောဆိုချက်တွေဟာ အနှစ်သာရပိုင်းကိုမသိလို့ တူတယ်ထင်ပြီး တော့ ပြောနေကြတာ။

အပေါ်ယံအားဖြင့် သံသရာလက်ခံတယ်ဆိုတာ ဟုတ်တယ်၊ ကံကို လက်ခံတာ ဟုတ်တယ်၊ ကံ၏အကျိုးကို လက်ခံတာ ဟုတ်တယ်၊ သံသရာလည်တယ်ဆိုတဲ့အပိုင်းမှာ ကြီးမားတဲ့ ကွဲပြား ခြားနားချက်ကြီးရှိတယ်၊ ဘာလဲ?။

## ကမ္မဝါဒချင်း တူပေမယ့်လို့

Hinduism မှာ သံသရာလည်တယ်ဆိုတာ ဘယ်သူ လည်တာတုန်းဆိုတော့ 'အတ္တ' လို့ခေါ်တဲ့ ထာဝရမြဲနေတဲ့ အရာလေးတစ်ခု လည်တာ၊ အတ္တက သံသရာလည်တာ၊ ထိုအတ္တ မှာ ရုပ်တွေနာမ်တွေ ရှိတယ်၊ အဲဒီအတ္တကို ဘယ်သူက ဖန်ဆင်း တာတုန်းဆို ဗြဟ္မာကြီးက ဖန်ဆင်းထားတာ၊ အဲဒီအတ္တကို နာမည် အမျိုးမျိုးနဲ့ ခေါ်လို့ ရတာပေါ့၊ Hinduism မှာဆို 'အာတ္မန်' လို့ ဒီလိုသုံးတယ်၊ 'အာတ္မန်' တို့ 'ဗြဟ္မတ္မန်' တို့ဆိုတာ ရှိတယ်၊ 'ဗြဟ္မတ္မန်' ဆိုတာက Universal soul ကို ပြောတာ၊ ဗြဟ္မာကြီးကို ဗြဟ္မတ္မန် Universal soul? အဲဒီ Universal soul ဆိုတဲ့ ဖန်ဆင်းရှင်ကြီးကနေပြီးတော့ Individual soul လို့ ခေါ်တဲ့ အသီးသီးသော သတ္တဝါတွေရဲ့အတ္တကို ဖန်ဆင်းပေးလိုက်တယ်၊ အဲဒီလို ဖန်ဆင်းမှုကို လက်ခံပြီးတော့ သံသရာအကြောင်း, ကံ အကြောင်းကို ရှင်းပြတာ။

သူတို့ပြောတဲ့ ကံ, သူတို့ပြောတဲ့ သံသရာ ဆိုတာက ဖန်ဆင်း ထားတဲ့ အတ္တကလေး သံသရာလည်တာကို ပြောတာနော်၊ ထို

http://www.dhammadownload.com



အတ္တကလေးရဲ့ လုပ်ဆောင်ချက်တွေကို ကံလို့ ပြောတာ၊ ဒါ သူတို့ရဲ့ အခြေခံ၊ အဲဒီတော့ ကမ္မဝါဒချင်း တူပေမယ့်လို့ အနှစ် သာရပိုင်း အခြေပြုတာချင်း မတူဘူး၊ အလွန်ကွာခြားတယ်။

ဒါကြောင့်မို့ အင်္ဂလိပ်ဘာသာမှာ Reincarnation ဆိုတဲ့ စကားလုံးလေးတစ်ခုရှိတယ်၊Cambridge ကထုတ်တဲ့ dictionary ကို ကြည့်လိုက်တဲ့အခါ Reincarnation နဲ့ ပတ်သက်လို့ Spirit ဆိုတဲ့အရာ၊ Spirit ဆိုတာ ခုနက အတ္တကို ပြောတာ၊ မြန်မာလို ပြောမယ်ဆိုရင်တော့ "ဝိညာဏ်ကောင်" တို့၊ "လိပ်ပြာ"တို့ဆိုတာ မြန်မာတွေပြောလေ့ရှိတယ်၊ အဲဒီ ဝိညာဏ်တို့ လိပ်ပြာတို့ ဆိုတာ ဟာ ခန္ဓာကိုယ်ကြီးတစ်ခု ဟောင်းနွမ်းသွားပြီဆိုရင် နောက် ခန္ဓာ တစ်ခုကို ပြောင်းရွှေ့တယ်။

အဲသလို ပြောင်းရွှေ့တဲ့အခါမှာ ဘယ်သူက ရွေးချယ် ပေးတာတုန်းဆိုရင် ကံက ရွေးချယ်ပေးတယ်၊ ဘဝတစ်ခုကနေ ဘဝတစ်ခု ဖြစ်နေတာဟာ ကံကြောင့် ဖြစ်တယ်ဆိုတာလည်း ဟုတ်တယ်၊ ဘဝတစ်ခုကနေ ဘဝတစ်ခု ပြောင်းရွှေ့နေတယ် ဆိုတာ ဘယ်သူပြောင်းတာတုန်းဆိုတာကျ ကွဲပြားသွားပြီ၊ အဲဒီ အချက်ကလေးမြင်ဖို့ အင်မတန်မှလိုတယ်၊ ဗုဒ္ဓဘာသာတွေလည်း "လူဝင်စား လူဝင်စား" နဲ့ ပြောကြတယ်၊ ဘယ်သူကသေပြီး ဘယ်သူ့ထဲ ဝင်စားတယ်လို့ ပြောတယ်၊ ဒါ အပြောအနေနဲ့တော့ ပြောလို့ရတယ်၊ သို့သော် အနှစ်သာရပိုင်းအနေနဲ့ အမှန်ကို သိဖို့ လိုတယ်။

ဗုဒ္ဓဘာသာမှာ ခုနက Universal soul ဆိုတဲ့ ထာဝရဘုရား သခင်က ဖန်ဆင်းထားတဲ့ "အတ္တ"ဆိုတဲ့အရာ မရှိဘူး၊ အင်္ဂလိပ်လို

http://www.dhammadownload.com



အတ္တကို soul လို့ ပြန်တယ်၊ အဲသလို soul ဆိုတဲ့အရာ သို့မဟုတ် spirit ဆိုတဲ့အရာ သို့မဟုတ် "ဝိညာဏ်ကောင်" သို့မဟုတ် "လိပ်ပြာကောင်" က ထာဝရမြဲပြီး တစ်ဘဝကနေ တစ်ဘဝ ပြောင်းသွားနေတယ် ဆိုတဲ့အရာက မရှိဘူး။

အဲဒီတော့ Reincarnation ဆိုတဲ့ စကားလုံးကို ဖွင့်ဆိုချက် အရ ထာဝရမြဲနေတဲ့ spirit ဆိုတဲ့ လူတွေသေဆုံးသွားတဲ့အခါ လူတွေရဲ့သန္တာန်မှာဖြစ်တဲ့ အသက်လိပ်ပြာ ဝိညာဏ်ကောင် ဆိုတာဟာ နောက်ခန္ဓာတစ်ခုကို ဝင်ရောက်ပြီးတော့ သွားတာ၊ အဲဒီအခါမှာ နောက်ခန္ဓာတစ်ခုမှာ သူက သွားပြီးတော့ ဖြစ်ပေါ် လာတယ်၊ ဒီခန္ဓာတစ်ခု ပျက်သွားပြီးတော့ နောက်ခန္ဓာတစ်ခုမှာ ဝင်ရောက်သွားတယ်။

Cambridge Dictionary ထဲမှာ ဘာရေးထားတုန်းဆို Hindu and Buddhist believe in reincarnation တဲ့ ရေးထား တယ်၊ သူပြောတဲ့ Buddhist က ဘယ် Buddhist တုန်းဆိုရင် Tibetan Buddhist ပဲ ဖြစ်တယ်၊ ထေရဝါဒ Buddhist က Reincarnation ကို လက်မခံဘူးနော်၊ Reincarnation ဆိုတဲ့ လူ့ရဲ့ "အသက်, လိပ်ပြာ, ဝိညာဏ်ကောင်" ကနေပြီးတော့ နောက်ထပ် တစ်ဘဝ ကူးပြောင်းသွားပြီးတော့ ပြန်မွေးတယ် ဆိုတာကို လက်မခံဘူး၊ ဒါက ပြန်မွေးတာ မဟုတ်ဘူး၊ အဲဒီလို ကွဲပြား ခြားနားမှုလေးတွေရှိတယ်။

အဲဒါကို မသိလို့ရှိရင် ဒီဘာသာတွေက အတူတူပဲလို့ ထင်နေကြတယ်၊ အနှစ်သာရပိုင်းမှာ အလွန်ကွဲပြားခြားနားတယ်၊ သူတို့ရှင်းပြတဲ့ သံသရာတို့ ကံတို့ဆိုတာ အတ္တကိုအခြေခံပြီးတော့

http://www.dhammadownload.com



မြဲတဲ့အရာလေးတစ်ခုရဲ့ လှည့်ပတ်သွားလာမှု, လုပ်ဆောင်နေမှုကို ကြည့်ပြီးတော့ ကံ, လှည့်ပတ်သွားလာနေမှုကို သံသရာလို့ ဒီလိုပြောတယ်၊ သူတို့မှာ သံသရာက လွတ်တယ်ဆိုတဲ့ နိဗ္ဗာန်ဟာ ဒီ Individual soul လေးက Universal soul နဲ့ ပြန်ပေါင်းသွားတာကို လွတ်မြောက်မှု (မောက္ခ) လို့ ဒီလိုခေါ်တယ်။

အဲဒီတော့ ဗုဒ္ဓဘာသာမှာ အသက်တို့ လိပ်ပြာတို့ ဝိညာဏ်ကောင်တို့ အတ္တတို့ဆိုတာ မရှိဘူး၊ ဘာပဲရှိတုန်းဆို ခန္ဓာ ၅-ပါးပဲ ရှိတယ်၊ ရုပ်နဲ့နာမ်ပဲ ရှိတယ်၊ အဲဒီ ရုပ်နဲ့နာမ်ဆိုတဲ့ ခန္ဓာ ၅-ပါးဟာ ဘယ်သူကမှလည်း ဖန်ဆင်းထားတာ မဟုတ်ဘူး၊ မြဲတဲ့ အရာကြီးလည်း မဟုတ်ဘူး၊ ထာဝရပြောင်းလဲနေတဲ့ အရာသာ ဖြစ်တယ်၊ တစ်ခုတည်းလည်း မဟုတ်ဘူး၊ ဖြစ်ပြီး ပျက်သွားတာတွေချည်းပဲဖြစ်တယ်၊ ဖြစ်ပျက်နေတဲ့ အစဉ်တန်းကြီးသာ ဖြစ်တယ်၊ အဲဒါ ထေရဝါဒဗုဒ္ဓဘာသာ အဆို။

ဒီဟာလည်း တော်တော်နဲ့သဘောပေါက်ဖို့ ခက်တဲ့ကိစ္စပဲနော်၊ သာမန်စဉ်းစားပြီး သာမန်ကြည့်မယ်ဆိုရင် ဒါကို သဘောမပေါက်နိုင်ဘူး၊ သဘောမပေါက်နိုင်လို့ရှိရင် ခုနကပြောတဲ့ ဟိန္ဒူဝါဒတွေလို အခြားဗုဒ္ဓဘာသာဂိုဏ်း၊ တိဘက် ဗုဒ္ဓဘာသာဂိုဏ်းတို့လို ရောထွေးပြီးတော့ သွားစရာရှိတယ်၊ ထေရဝါဒဗုဒ္ဓဘာသာက အဲဒီလို မဟုတ်ဘူး။

ဗုဒ္ဓမြတ်စွာ လက်ထက်တော်အခါကာလတုန်းက "သာတိ" ဆိုတဲ့ ရဟန်းတစ်ပါး ရှိတယ်၊ သူက "ဘုရားဟောတဲ့တရားသူနားလည်တယ်တဲ့၊ သံသရာအကြောင်း နားလည်တယ်, ကံအကြောင်း နားလည်တယ်၊ အဲဒီ နားလည်တဲ့အတိုင်း ပြောရမယ်

http://www.dhammadownload.com



ဆိုလို့ရှိရင် ဟောဒီလူတွေရဲ့ သန္တာန်မှာရှိတဲ့ spirit လို့ ခေါ်တဲ့ ဝိညာဉ်ကောင်လေးက စကားပြောတတ်တယ်, ခံစားတတ်တယ်" (ဟိန္ဒူဝါဒမှာ စကားပြောတာ ဘယ်သူက ပြောတာတုန်း အတ္တလေးက စကားပြောတာ၊ ဝိညာဉ်ကောင်လေးက ပြောတာ)၊ ဝိညာဉ်ကောင်လေးက ရုပ်ခန္ဓာကို အကြောင်းပြုပြီးတော့ စကားပြောတယ်၊ စိတ်ကို အသုံးချတယ်၊ စိတ်တို့ ရုပ်တို့ ဆိုတာ ဝိညာဉ်ကောင်လေးရဲ့ အသုံးချ ပစ္စည်းလေးတွေပဲ၊ အဲဒါကို **"အတ္တနိယ"** လို့ ခေါ်တာ၊ သူပိုင်ဆိုင်တဲ့ပစ္စည်း။

ဥပမာ-ကားရှိတဲ့လူက ကားနဲ့သွားတယ်မို့လား၊ ကားမောင်းသွားတယ်၊ အဲသလိုပဲ ဒီခန္ဓာကိုယ်ကြီးကို ဘယ်သူက ပိုင်စိုးတာတုန်းဆိုတော့ အဲဒီအတ္တကောင် ဝိညာဉ်ကောင်လေးကနေ ပိုင်စိုးတယ်၊ ပိုင်စိုးထားပြီးတော့ သူက စကားပြောတတ်တယ်၊ ခံစားတတ်တယ်၊ ချမ်းသာတယ်၊ ဝမ်းနည်းတယ်၊ ပျော်ရွှင်တယ် ဆိုတဲ့ ချမ်းသာမှုတွေ သူခံစားတယ်၊ ဝမ်းနည်းတာတွေ ရှိတယ်၊ အဲဒီလို သာတိရဟန်းက ပြောတယ်၊ အဲဒီ ဝိညာဉ်လေးပဲတဲ့၊ ဒီ ဝိညာဉ်လေးပဲ တစ်ဘဝကနေ တစ်ဘဝ ကူးနေတာလို့၊ ဒါ ဗုဒ္ဓဘာသာ ရဟန်းတော်တစ်ပါးနော်၊ မြတ်စွာဘုရားလက်ထက်က ဗုဒ္ဓဘာသာရဟန်းတော်တစ်ပါး။

**"တဒေဝ ဝိညာဏံ သံသရတိ"** တဲ့ သူပြောတဲ့ စကားလုံးလေးက၊ ဟောဒီ ဝိညာဉ်ကောင်လေးသည်ပင်လျှင် သံသရာလည်နေတာ၊ ဟောဒီဝိညာဉ်ကောင်လေးသည်ပင် ခန္ဓာကိုယ်တစ်ခုကနေ ခန္ဓာကိုယ်တစ်ခု ပြောင်းလဲပြီးတော့ သွားတာ၊

http://www.dhammadownload.com



တစ်ဘဝကနေ တစ်ဘဝသွားပြီးတော့ ဘဝသစ်တွေ ဖြစ်နေတာလို့ သူက ဒီလိုပြောတယ်။

ဒီလို ပြောတဲ့အခါ ရဟန်းတော်တွေက သူ့ကို အဲသလို မပြောနဲ့၊ ဒါ ဗုဒ္ဓဘာသာအမြင် မဟုတ်ဘူးလို့ ဝိုင်းပြီးတော့ ရှင်းပြကြတယ်၊ သူ လက်မခံဘူး၊ လက်မခံတော့ ဘုရားဆီပို့တယ်၊ ဘုရားဆီ ပို့တဲ့ခါကျတော့ မြတ်စွာဘုရားက "ကဲ - မင်းက 'ဝိညာဏ ဝိညာဏ' ဝိညာဏ် ဝိညာဏ်နဲ့ပြောတယ်၊ ဘယ်ဝိညာဏ်ကို ပြောတာတုန်း" ဆိုတော့ **"ဝဒေါ ဝေဒေယျော"** တဲ့၊ သူပြောပြပုံလေးက **"ဝဒေါ"** စကားပြောတတ်တယ်တဲ့၊ **"ဝေဒေယျော"** ခံစားတတ်တယ်တဲ့၊ ကောင်းတဲ့ကံ ဆိုးတဲ့ကံတို့ရဲ့အကျိုးကို ခံတတ် စံတတ်တဲ့ ဝိညာဉ်ကလေးကို သူပြောတာပါလို့၊ Hinduism နဲ့ တစ်ထပ်တည်းပဲ သူပြောလိုက်တာ၊ ဒါပေမယ့် သူက ဗုဒ္ဓဘာသာ ရဟန်းတော်တစ်ပါးပဲ။

အဲသလိုပြောတော့ မြတ်စွာဘုရားက "ငါဟောတဲ့တရား မင်းဘယ်လိုလုပ်ပြီး နားလည်တာလဲ" တဲ့၊ ငါက **"ဝိညာဏံ ပဋိစ္စသမုပ္ပန္နံ"** ဝိညာဏ်ဆိုတာ အကြောင်းတရားကို စွဲပြီးတော့ ဖြစ်တာ၊ စိတ်ဆိုတဲ့ ဝိညာဏ်လေးဟာ၊ နာမ်ဆိုတဲ့ ဝိညာဏ်လေးဟာ အကြောင်းတရားကို စွဲပြီးတော့မှ ဖြစ်ရတယ်၊ ရှိနေတာ မဟုတ်ဘူး၊ မြဲနေတဲ့အရာ မဟုတ်ဘူး၊ အကြောင်းတရားကို စွဲဖြစ်တယ် ဆိုကတည်းက အကြောင်းမရှိရင်ဖြစ်ပါ့မလား "မဖြစ်ပါဘုရား"၊ မဖြစ်ဘူးဆိုတဲ့ အဓိပ္ပာယ်ပါလာပြီ၊ **"ပဋိစ္စသမုပ္ပန္န"**၊ **"ပဋိစ္စ"**-အကြောင်း တရားကို အမှီပြုရမှ **"သမုပ္ပန္န"** ဖြစ်လာတယ်၊

http://www.dhammadownload.com



အကြောင်းတရားကို မှီရမှ ဖြစ်လာတယ်လို့ဆိုရင် မမှီရရင် မဖြစ်ဘူးဆိုတဲ့ အဓိပ္ပာယ်ရှိတယ်။

အဲဒီတော့ သူ့ရဲ့ ရပ်တည်မှု၊ သူဖြစ်ပေါ်လာမှုဟာ အကြောင်းတရားကို အမြဲတမ်း ငဲ့နေရတယ်၊ အကြောင်းတရားရဲ့ ညီညွတ်မှုကို အမြဲတမ်း မျှော်လင့်နေရတယ်၊ အကြောင်းတရားကို အမှီပြုလို့ မရဘူးဆိုရင် ဖြစ်နိုင်စွမ်း မရှိဘူး၊ အဲဒီကတည်းက ဝိညာဏ်ဟာ အကြောင်းကြောင့်ဖြစ်လာတဲ့ တရားတစ်ခုပဲလို့ ဆိုတာ ထင်ရှားတယ်ပေါ့။

ဒါကြောင့်မို့လို့ ထာဝရမြဲနေဖို့ ဟိုဘဝကနေ ဒီဘဝသွားဖို့ ဆိုတာ လုံးဝဖြစ်နိုင်တဲ့အရာ မဟုတ်ဘူး။ စက္ခုဝိညာဏ်စိတ်လေး ဖြစ်ပုံကို မြတ်စွာဘုရားက ရှင်းပြတယ်၊ မျက်စိရယ် ရူပါရုံရယ် ဒီ ၂-ခု ဆုံလိုက်တဲ့အခါ စက္ခုဝိညာဏ်စိတ်ဆိုတာ ဖြစ်တာ၊ အဲဒါ ၂-ခု မဆုံလို့ရှိရင် စက္ခုဝိညာဏ်စိတ်လေး ဖြစ်ပါ့မလား "မဖြစ်ပါဘုရား"၊ အေး အသံနဲ့ နားနဲ့ ဆုံလိုက်တဲ့အခါ သောတဝိညာဏ်စိတ်၊ ကြားသိစိတ်ကလေးဖြစ်တယ်၊ နှာခေါင်းနဲ့အနံ့ ဆုံလိုက်တဲ့ အခါမှာ နံ့သိစိတ်ကလေး ဖြစ်တယ်၊ လျှာနဲ့ အရသာ ဆုံလိုက်တဲ့ အခါမှာ အရသာသိစိတ်ကလေးဖြစ်တယ်၊ ခန္ဓာကိုယ်နဲ့ အထိအတွေ့အာရုံ ဆုံလိုက်တဲ့အခါမှာ ထိသိစိတ်ကလေးဖြစ်တယ်၊ ဒီစိတ်တွေဟာ "မန" နဲ့ ဓမ္မအာရုံ ဆုံလိုက်တဲ့အခါမှာ မနောဝိညာဏ်စိတ်ဖြစ်တယ်၊ စိတ်မှန်သမျှဟာ အကြောင်းတွေကို မှီတည်ပြီး ဖြစ်တာချည်းပဲ။

အဲဒီထဲမှာ ထင်ထင်ရှားရှားကြည့်လိုက်လို့ရှိရင် မှီတာတွေကို ကြည့်ပြီးတော့မှ ဖြစ်ရတာလို့ဆိုတော့ သူ့ရဲ့ အကြောင်းတရား

http://www.dhammadownload.com



တွေကိုကြည့်လိုက် - ရူပါရုံဆိုတာ မြဲသလားဆို မမြဲဘူးဆိုတာ ထင်ရှားတယ်၊ ပျက်သွားတယ်လေ၊ နောက်ပြီးတော့ မျက်စိဆိုတာ ရော မြဲသလားဆို မမြဲဘူး၊ မမြဲတာ ထင်ရှားတယ်၊ ရူပါရုံလည်း မြဲတာမဟုတ်ဘူး၊ စက္ခုပသာဒရုပ်ဆိုတဲ့ မျက်စိကလည်း မြဲတာ မဟုတ်ဘူး။

ထို့အတူပဲ အသံဆိုတာလည်း ဖြစ်ပြီး ပျောက်သွားတာ ထင်ရှားတယ်လေ၊ အမြဲရှိတာ မဟုတ်၊ အသံကို ခံယူနိုင်တဲ့ သောတပသာဒရုပ်ဆိုတာလည်း မြဲတာမဟုတ်ဘူး၊ မမြဲတာတွေကို အကြောင်းပြုပြီးတော့ ဖြစ်ပေါ်လာတဲ့ ဒီ ဝိညာဏ်စိတ်လေးဟာ ဘယ်လိုလုပ်မြဲမှာတုန်း၊ **"အနိစ္စ သမ္ဘူတံ ကုတော နိစ္စံ ဘဝိဿတိ"** လို့ မြတ်စွာဘုရားဟောတာ။ ဖြစ်ပြီးပျက်သွားတဲ့ အရာတစ်ခုဟာ ဘယ်လိုလုပ် ဘဝကူးလို့ရမှာတုန်း၊ ကူးလို့ကို မရဘူး၊ မကူးခင်က ပျက်သွားပြီ၊ ချက်ချင်းဖြစ် ချက်ချင်းပျက်သွားတဲ့ အရာတစ်ခုက ဘယ်လိုလုပ်ပြီး ဘဝကူးလို့ရမှာလဲ။

ဒါကြောင့်မို့ ဗုဒ္ဓမြတ်စွာက သာတိ ရဟန်းကို ရှင်းပြတယ်၊ ရှင်းပြပေမယ့် သာတိ ရဟန်းရဲ့ အယူအစွဲဟာ ပျောက်မသွားဘူး၊ ဒါကြောင့် အစွဲဖျောက်ဖို့ အလွန်ခဲယဉ်းတယ်နော်၊ သစ္စာ ၄-ပါး အကြောင်း ရှင်းပြဖို့ ခဲယဉ်းသလို သတ္တဝါအကြောင်း၊ သံသရာ အကြောင်း၊ ပဋိစ္စသမုပ္ပါဒ်အကြောင်း၊ ပဋိသန္ဓေအကြောင်းတို့ ဆိုတာ ရှင်းပြဖို့ခက်တယ်၊ နားလည်နိုင်ခဲတယ်။

http://www.dhammadownload.com



**စကားအနေနဲ့ ပြောတဲ့အရာဟာ အနှစ်သာရပိုင်း မဟုတ်ဘူး**

၅၅၀-ဇာတ်တွေကို ဖတ်လိုက်တဲ့အခါမှာ စာထဲမှာပါတယ် **"ယထာကမ္မံ ဂတော"** ကံအားလျော်စွာ သွားတယ်ဆိုတာ ပုဂ္ဂိုလ်ထူးတစ်ယောက်ဟာ ထွက်သွားသလိုလို အဓိပ္ပာယ်မျိုးတွေ ရေးထားတာ အများကြီးရှိတယ်၊ သို့သော် ဒါက ဝေါဟာရစကား အနေနဲ့ ပြောတာ၊ "စကားအနေနဲ့ ပြောတဲ့အရာဟာ အနှစ်သာရပိုင်း မဟုတ်ဘူး"။

ကဲ - လူတွေ ပြောနေတာကို ကြည့်မယ် ဆိုပါစို့ - ဘာလုပ်နေတုန်း၊ ထမင်းစားနေတယ်၊ သူ ထမင်းတင် စားတာလား၊ ဟင်းမပါဘူးလားလို့တွေးရင် ဘယ်ဟုတ်မတုန်း၊ တစ်ခုပဲ ပြောတာပဲ၊ သူပြောတဲ့စကားက အပြည့်အစုံ မဟုတ်ဘူးနော်၊ အဲဒီတော့ နားလည်ရမှာက တစ်မျိုး၊ ထမင်းစားတယ် ဆိုကတည်းက ဟင်းတွေနဲ့ စားနေတယ်ဆိုတာ သဘောပေါက်ထားရတာမျိုး၊ အရေးကြီးတာ တစ်ခုတည်းတင် သူပြောလိုက်တာပေါ့။

အခုလည်း သံသရာမှာ ကံအားလျော်စွာ ဖြစ်သွားတယ်၊ သို့မဟုတ် "ဝင်စားတယ်" လို့ပြောတာ ဘယ်သူက ဝင်စားတာတုန်း၊ ဘယ်သူမှ ဝင်စားစရာအကြောင်း မရှိဘူး။

အဲဒါကြောင့်မို့ Reincarnation ဆိုတာ ခန္ဓာကိုယ်မှာရှိတဲ့ အတ္တကောင် လိပ်ပြာကောင် ဝိညာဉ်ကောင် ဆိုတာလေးဟာ သေတဲ့အခါကျတော့ ဒီရုပ်ခန္ဓာကြီး ပျက်စီးသွားလို့ ဒီခန္ဓာကိုယ်ကြီးကို စွန့်ခွာသွားပြီး နောက်ခန္ဓာအသစ်ထဲ ဝင်တာတဲ့၊ ဒါ သူတို့ အယူအဆနော်။

http://www.dhammadownload.com



အဲဒီမှာ Cambridge Dictionary က ရောထည့်ပြီးတော့ ကြိုတ်ထားတယ်၊ Hindu and Buddhist believe in Reincarnartion၊ တကယ်တော့ ထေရဝါဒ ဗုဒ္ဓဘာသာမှာ Reincarnation မရှိဘူး၊ Reincarnation ဆိုတာ ထာဝရမြဲနေတဲ့ အရာက ဒီခန္ဓာတစ်ခုကနေ ခန္ဓာတစ်ခု ပြောင်းပြီးတော့ သံသရာ လည်နေတာကို ပြောတာ။

ဗုဒ္ဓဘာသာမှာ ထာဝရမြဲနေတဲ့အရာဟာ မရှိဘူး၊ ဘာတုန်း ဆို အကြောင်းအကျိုး ဆက်သွယ်နေတာမျှသာ ဖြစ်တယ်၊ ဒါကြောင့်မို့လို့ မိလန္ဒပဥှာမှာ "**န စ သော န စ အညော**"၊ သူလည်း မဟုတ်၊ တခြားလည်း မဟုတ်လို့ ပြောတာနော်၊ "**န စ သော န စ အညော**"။

## ထေရဝါဒဗုဒ္ဓဘာသာမှာ "ပုနဗ္ဘဝ"

ကောင်းပြီ - Reincarnation ဆိုတဲ့ စကားလုံးက ထေရဝါဒ ဗုဒ္ဓဘာသာနဲ့ မဆိုင်ဘူး၊ တခြား ဗုဒ္ဓဘာသာခွဲတွေ၊ ခုနက သာတိ ရဟန်းလို လက်ခံထားတဲ့ ပုဂ္ဂိုလ်မျိုးတွေနဲ့ပဲဆိုင်တယ်၊ ထေရဝါဒ ဗုဒ္ဓဘာသာမှာ "ပုနဗ္ဘဝ" တစ်ဖန်ဘဝ ဆိုတာပဲ သုံးတယ်၊ ဘဝသစ်၌ ပြန်လည်မွေးဖွားခြင်းသာလျှင် ပြောတယ်၊ ပြန်လည် မွေးဖွားတယ် ဆိုကတည်းက သူက အသစ်ဖြစ်တယ်ဆိုတဲ့ အဓိပ္ပာယ်ရနေတယ်၊ သို့သော် ထိုအသစ်သည် အဟောင်းနဲ့ ဆက်စပ်မှုရှိတယ်၊ အသစ်ဟာ အသစ်ပဲ၊ အဟောင်းက အသစ် ဖြစ်တာ မဟုတ်ဘူး၊ သူတို့ပြောတဲ့ Reincarnation ဆိုတာ

http://www.dhammadownload.com



ဝိညာဉ်ကောင်လေး တစ်ကောင်တည်းကနေ လှည့်ပတ်ပြီး သွားလာတာ၊ ခန္ဓာဟောင်းကို အသစ်ပြောင်းတာပဲရှိတယ်။

သူတို့က ဥပမာတွေနဲ့ ရေးထားတယ်၊ ငှက်ကလေး တစ်ကောင် ပြောင်းရွှေ့သွားတယ်ပေါ့၊ လူတစ်ယောက်ကလည်း အဝတ်တစ်ခု ဟောင်းသွားရင် နောက်အဝတ်တစ်ခု ပြောင်းဝတ်တယ်၊ ဒီအိမ်ကနေ အခြားအိမ်တစ်ခုထဲ ဝင်သွားတယ်၊ ထို့အတူပဲ အတ္တလို့ဆိုတဲ့ ဝိညာဉ်ကောင် လိပ်ပြာကောင်လေးဟာ လူ့ ခန္ဓာကိုယ်ကြီး ပျက်စီးသွားရင် ဒီခန္ဓာကိုယ်ကနေ တခြား ခန္ဓာ ကိုယ်ကို ပြောင်းပြီး ဝင်စားသွားတယ်လို့ ဒီလိုပြောကြတယ်၊ ဒါက Hinduism မှာ ပြောတဲ့စကား။

ဟိန္ဒူအယူအဆရှိတဲ့ ပုဂ္ဂိုလ်တွေက မြတ်စွာဘုရားတောင်မှ Vishinu ရဲ့ 'နဝမ အဝတာရ' ကိုးခုမြောက် ဝင်စားသူလို့ဆိုတယ်။ ဟိန္ဒူဘုရားကျောင်းထဲ သွားကြည့်ရင် ဗုဒ္ဓရုပ်ပွား တွေ့ရလိမ့်မယ်၊ သွားပြီးတော့ ဗုဒ္ဓဘာသာတွေက မယောင်နဲ့ "တို့နဲ့ အတူတူပဲ"လို့ အနှစ်သာရပိုင်းမှာ အလွန်ကွဲပြားခြားနားမှုရှိတယ်နော်၊ ဘုရားကို သူက ဘယ်အဆင့်ထိ ပို့တုန်းဆို မြတ်စွာဘုရားကို ဗိဿနိုး Vishinu ဝင်စားသူလို့ လုပ်လိုက်တယ်၊ 'နဝမ အဝတာရ' လို့ ကိုးခုမြောက် အဝတာရ၊ အဲဒီတော့ ဟိုဝင်စား ဒီဝင်စားဆိုတဲ့ ဗိဿနိုးဟာ ထာဝရမြဲနေတဲ့ နိစ္စ ဖြစ်နေတယ်ပေါ့၊ ဟုတ်တယ်မို့ လား။

သူကနေပြီးတော့ လူ့လောကကြီးမှာ တရားပြဖို့ မတရားမှု တွေ ထွန်းကားနေသည့်အတွက်ကြောင့် ဗိဿနိုးဆိုတဲ့ နတ်ကြီးက လူ့လောက လူတွေကို ကယ်တင်ဖို့ဆိုပြီးတော့ ဝင်စားလာတာတဲ့၊

http://www.dhammadownload.com



အဲဒါကြောင့်မို့ ဟိန္ဒူဘုရားကျောင်းထဲမှာ 'အဝတာရ' တွေရှိတယ်၊ ပထမ အဝတာရ၊ ဒုတိယအဝတာရ၊ အဲဒီမှာ နဝမအဝတာရကို ဗုဒ္ဓရဲ့ရုပ်ပွားတော်ကို ထားတယ်။ ဒါ ဟိန္ဒူတွေကလည်း ဘုရား ကိုးကွယ်တယ်ဆိုတာ သူတို့ ဘုရားကိုးကွယ်တယ်ဆိုတာ ဗုဒ္ဓ စစ်စစ်လို့ ယုံကြည်ပြီး ကိုးကွယ်မှုမျိုးမဟုတ်ဘူး၊ ဘုရား ကိုးကွယ် တာ မဟုတ်ဘူး၊ တကယ်ကတော့ ဗိဿနိုးကို ကိုးကွယ်တာပဲ၊ ဟုတ်ရဲ့လား၊ ဗိဿနိုးဝင်စားလို့ဆိုပြီး ကိုးကွယ်တာလေ၊ အဲဒီလို အယူအဆ မတူညီမှုတွေရှိတယ်၊ အဲဒီ မတူညီမှုတွေကို မသိလို့ ရှိရင် အတူတူပါပဲဆိုတာနဲ့ ရောကြိတ်တတ်တယ်၊ အနှစ်သာရပိုင်း မသိရင်တော့ တူသယောင်ဖြစ်နေတယ်ပေါ့၊ အမှန်ကတော့ လုံးဝ ကွဲပြားခြားနားမှု ရှိတယ်။

## Reincarnation and Rebirth

မြတ်စွာဘုရားက ဘယ်လောက်ထိအောင် ရှင်းရှင်းလေး ဟောထားတုန်းဆိုရင် "အင်မတန်သေးငယ်တဲ့ မြေမှုန်လေး လောက်တောင်မှပဲ လောကကြီးမှာ မြဲတယ်ဆိုတဲ့အရာ မရှိဘူး၊ အကယ်၍ မြူမှုန်လေးလောက်အရာလေးတစ်ခုတောင် မြဲတဲ့ အရာ ရှိတယ်ဆိုရင် မြတ်သောအကျင့် ကျင့်စရာမလိုဘူး" တဲ့၊ ဆိုလိုတာက တရားဓမ္မတွေ ကျင့်သုံးရတာဟာ မမြဲလို့ ကျင့်သုံး ရတာ။ မမြဲတဲ့အရာတွေ၊ ပြောင်းလဲနေတဲ့အရာတွေဖြစ်လို့ မခိုင်မြဲ လို့ ဒါတွေကို နားလည်သဘောပေါက်အောင် ကျင့်သုံးရတယ်လို့ ပြောတာ၊ မြဲတဲ့အရာရှိနေလို့ရှိရင် ဘာမှ ကျင့်သုံးစရာ မလိုဘူးတဲ့၊ သူ့သဘာဝအတိုင်း မြဲသွားမှာပေါ့။

http://www.dhammadownload.com



အဲဒါကြောင့်မို့ ဗုဒ္ဓဘာသာကျမ်းဂန်တွေကျတော့ Reincarnation ဆိုတဲ့ အသုံးကို မသုံးတော့ဘဲနဲ့ Rebirth ကို သုံးတယ်၊ Rebirth က ပြန်လည်မွေးဖွားခြင်း၊ Reincarnation က ဝင်စားခြင်း၊ ပြန်လည်ပြီးတော့ ဝင်စားခြင်း။ Rebirth ဆိုတာက အကြောင်းကြောင့် ပြန်လည်မွေးဖွားခြင်း၊ ကံတရားအနေနဲ့ ဆက်သွယ်ပြီးတော့ ဖြစ်လာမှုပဲရှိတယ်၊ တကယ်ကတော့ ခိုင်မြဲနေတဲ့ အရာဝတ္ထုတစ်ခုကနေပြီးတော့ တစ်ဘဝကနေ တစ်ဘဝ ကူးနေတာ မဟုတ်ဘူးတဲ့။

မြတ်စွာဘုရားရဲ့အလိုတော်က ရုပ်နဲ့နာမ် ၂-မျိုးပဲရှိတယ်၊ ခန္ဓာ ၅-ပါးပဲ ရှိတယ်၊ အဲဒီ ခန္ဓာ ၅-ပါးဟာ အနတ္တပဲ။ ရူပက္ခန္ဓာဟာ အတ္တလားဆို အတ္တ မဟုတ်ဘူး၊ မြဲနေတဲ့အရာ မဟုတ်ဘူး၊ ဝေဒနာက္ခန္ဓာလည်း အတ္တ မဟုတ်ဘူး၊ သညာက္ခန္ဓာလည်း အတ္တ မဟုတ်ဘူး၊ သင်္ခါရက္ခန္ဓာ, ဝိညာဏက္ခန္ဓာလည်း အတ္တ မဟုတ်ဘူး၊ ဝိညာဉ်ကောင် မဟုတ်ဘူး၊ လိပ်ပြာကောင် မဟုတ်ဘူး၊ ဒါဖြင့် လူတွေဟာ ခန္ဓာ ၅-ပါးအပြင် ဘာရှိသေးတုန်းဆို ဘာမှမရှိဘူး၊ သူတို့အလိုဆိုရင် ခန္ဓာ ၅-ပါးအပြင် အတ္တ ရှိနေသေးတယ်။

အဲဒီတော့ မြတ်စွာဘုရားက အတ္တဆိုတာ ဟောဒီ ခန္ဓာ ၅-ပါးထဲက တစ်ခုခုကို လွဲမှားစွာ အမည်တပ်ထားခြင်းသာ ဖြစ်တယ်တဲ့၊ အဲဒီ ခန္ဓာ ၅-ပါးထဲမှာ လိုက်ရှာကြည့်လိုက်လို့ရှိရင် ထာဝရမြဲနေတဲ့ အတ္တဆိုတာ တစ်ခုမှမရှိဘူးလို့ မြတ်စွာဘုရားက ရှင်းရှင်းဟောတယ်၊ ခန္ဓာ ၅-ပါးထဲမှာလည်းမရှိဘူး၊ ခန္ဓာ ၅-ပါးရဲ့ အပြင်မှာလည်း မရှိဘူး၊ ခန္ဓာ ၅- ပါးသည် အတ္တလည်း မဟုတ်ဘူး၊ ခန္ဓာ ၅-ပါးရဲ့ အပြင်မှာလည်း အတ္တ မရှိဘူး၊ အတွင်းထဲမှာလည်း

http://www.dhammadownload.com



မရှိဘူး၊ ဘယ်နေရာမှာမှ မရှိဘူးလို့ ဒီလိုဆိုလိုတယ်၊ အဲဒီတော့ လောကကြီးမှာ မြဲတဲ့အရာဆိုတာ တစ်ခုမှ မရှိဘူး။

ဒါဖြင့် ကောင်းပြီ - သူတို့မှာ သံသရာအကြောင်းကို ရှင်းပြဖို့ သိပ်လွယ်တယ်၊ ဘာဖြစ်လို့ လွယ်တာတုန်းဆိုတော့ ဝိညာဉ်ကောင်လေးကနေပြီးတော့ ဟောဒီ ရုပ်ခန္ဓာကြီး ဟောင်းနွမ်းပျက်စီးသွားတဲ့အခါ နောက်ခန္ဓာသစ်တစ်ခုထဲကိုသွားတယ်၊ နောက်ခန္ဓာအသစ်ကိုယ်ကို ရွေးချယ်ရတယ်၊ ဟော တိရစ္ဆာန်ဖြစ်သွားတယ်၊ ပြိတ္တာ ဖြစ်သွားတယ်၊ ကောင်းတဲ့ကံ လုပ်ထားတဲ့ ပုဂ္ဂိုလ်က ကောင်းတဲ့ကံကဲ့သို့ လှပတဲ့ ခန္ဓာကိုယ်တွေ ရတယ်၊ လူ့ခန္ဓာရတယ်၊ နတ်ခန္ဓာ ရတယ် စသည်ဖြင့်ပေါ့နော်၊ သူတို့က ဒီလိုရှင်းတယ်၊ အဲဒီတော့ spirit လို့ ဆိုတဲ့ ဝိညာဉ်ကောင် အတ္တကောင်လိပ်ပြာကောင် ထာဝရမြဲနေတဲ့ အရာတစ်ခုသည် ဘဝ တစ်ခုကနေ ဘဝတစ်ခုကို သွားနေတာ။

Tibet ဗုဒ္ဓဘာသာဝင်တွေက Reincarnation ကို စွဲစွဲမြဲမြဲ ယုံကြည်တဲ့ ဗုဒ္ဓဘာသာ၊ ဗုဒ္ဓဘာသာ မစစ်ဘူး၊ သူတို့က တန္တရဗုဒ္ဓဘာသာ၊ မန္တရဗုဒ္ဓဘာသာတွေ၊ ဗုဒ္ဓရဲ့တရားတော်ကို လက်ခံတယ်လို့ ဆိုပေမယ့်လို့ အနှစ်သာရပိုင်းကို လက်ခံတာ မဟုတ်ဘူး၊ သံသရာအကြောင်း ကံအကြောင်း ရောထွေးပြီးတော့ အစစ်အမှန် မရှိဘဲနဲ့ အစစ်အမှန်က သွေဖီသွားတဲ့ ပုံစံပျက်နေတဲ့ ဗုဒ္ဓဘာသာမျိုးပဲ ဖြစ်တယ်။

အဲဒါကို ဘုန်းကြီးတို့ ဗုဒ္ဓဘာသာတွေက သေသေချာချာ မသိတဲ့အခါ Tibet ဗုဒ္ဓဘာသာဝင်တွေရွတ်တဲ့ မန္တာန်ကိုလည်း လိုက်ရွတ်တာ ရှိတယ်၊ "ဥုံ မဏိ ပဒ္မေဟုံ" ဆိုပြီး၊ ဒါ Tibet တွေ

http://www.dhammadownload.com



ရွတ်တဲ့မန္တာန်ကိုရွတ်တာ၊ ထေရဝါဒဗုဒ္ဓဘာသာမှာ ဘာအဓိပ္ပာယ်မှ မရှိဘူး၊ 'မဏိ' ဆိုတာ ပတ္တမြား၊ 'ပဒ္မ' ဆိုတာ ကြာ၊ 'ကြာထဲက ပတ္တမြား' တင်စားပြီးတော့ သုံးတာ။

သူတို့အဓိပ္ပာယ်ယူတာ ရှိသေးတယ်၊ သူတို့က Reincarnation နဲ့ ပတ်သက်တဲ့ အဓိပ္ပာယ်ယူထားတာ ရှိသေးတယ်၊ Tibet ဗုဒ္ဓဘာသာမှာ Reincarnation ကို အင်မတန်မှ ဦးစားပေးတယ်။

လားမားဘုန်းကြီးတစ်ပါး ပျံလွန်တော်မူပြီဆိုရင် ဘယ်မှာ ပြန်မွေးသလဲဆိုတာ လိုက်ရှာတယ်၊ သူ့စိတ်ထဲမှာလည်းပဲ သူ ပြန်မွေးဖို့ပဲ အမြဲတမ်းစဉ်းစားနေတာဆိုတော့ attachment က ရှိနေတယ်၊ အဲဒီတော့ အကုသိုလ်ကံ မရှိဘူးဆိုရင် သူ့ရဲ့ဆန္ဒ အတိုင်း သူက ပြန်ပေါ်လာမှာပဲ၊ သို့သော် ဒီဘဝက ပါသွားတဲ့ ဝိညာဉ်ကောင်လေးက ဒီဘဝကထွက်ပြီး ဟိုဘဝမှာ ဝင်စားတာ ဒါမျိုးမဟုတ်ဘူး၊ အကြောင်းနဲ့အကျိုး ဆက်စပ်သွားရုံပဲရှိတယ်။

ဒါကြောင့်မို့လို့ မြတ်စွာဘုရားက ဘဝကူးပုံနဲ့ ပတ်သက်ပြီးတော့ ရှင်းလင်းဟောကြားတဲ့နေရာမှာ သာမန်ပုဂ္ဂိုလ်တွေအနေနဲ့ နားလည်ဖို့ အလွန်တရာခက်ခဲတယ်။ အဲဒီတော့ နားလည်ဖို့ ခက်ခဲတာ ခုနကလို သဘောပေါက်ရမယ်၊ လူ့ရဲ့ခန္ဓာကိုယ်ထဲမှာ ဝိညာဏ်စိတ် ဆိုတာဟာ အကြောင်းတရားကြောင့် ပေါ်လာတာသာ ဖြစ်တယ်၊ ဆိုင်ရာအကြောင်းကို မှီပြီးတော့မှ ဖြစ်လာတယ်၊ ဖြစ်လာပြီးရင်လည်းပဲ ချက်ချင်းပျက်စီးသွားတယ်၊ မြဲနေတဲ့အရာ တစ်ခုမှမရှိဘူးဆိုတာကို ကြပ်ကြပ်နှလုံးသွင်းဖို့ လိုအပ်တယ်ပေါ့၊ အဲဒီ ဖြစ်ပျက်နေတဲ့အစဉ်ဟာ အကြောင်းရှိနေသေးသမျှ အကျိုး

http://www.dhammadownload.com



တွေပေါ်ပြီး ထိုအကျိုးတွေဟာ ရှေ့လျှားပြောင်းလဲပြီးတော့ ဒီလို သွားနေမယ်ဆိုတဲ့သဘောကို နားလည်ဖို့လိုတယ်။

ဘုန်းကြီးတို့ အခု တရားဟောနေတဲ့ အသံကိုပဲကြည့် - တရားပွဲစလိုက်တဲ့ အချိန်က အသံတွေ ပျောက်သွားပြီမို့လား၊ မရှိတော့ဘူးနော်၊ အဲသလိုပဲ ပျောက်နေတယ်ဆိုတာဟာ ထင်ရှားတယ်၊ စကားဟာ ရှေ့စကား နောက်စကား ပြောနေတယ်ဆိုတာ ရှေ့စကားကအသံတွေဟာပျောက်နေတာပဲ၊ အဲသလို ပျောက်နေသလို လူ့ခန္ဓာကိုယ်မှာဖြစ်တဲ့ ရုပ်တွေနာမ်တွေဟာလည်း ပျောက်နေတယ်ဆိုတာ ထင်ရှားတယ်၊ အဲဒီတော့ ပျောက်နေတယ် ဆိုလို့ ရှိရင် ပထမပေါ်လာတဲ့အသံလေးက ဒုတိယအသံ ဖြစ်လာတာ လားလို့ဆိုရင် မဟုတ်ဘူး၊ ဒုတိယအသံက သူ့အကြောင်းနဲ့သူ ဖြစ်လာတာ၊ ပထမအသံကလည်း သူ့အကြောင်းနဲ့သူ ဖြစ်တာ။

ဆိုပါစို့ - A, B, C, D လို့ ရွတ်ကြည့်လိုက်မယ် ဆိုလို့ရှိရင် A လို့ ရွတ်လိုက်တာလည်း သူ့အကြောင်းကြောင့် ဒီ A ဆိုတဲ့ အသံလေးပေါ်လာတာ၊ A ရွတ်ပြီးတဲ့အခါ A ပျောက်သွားမှ B ဆိုတာ ပေါ်လာတာ၊ အဲဒီတော့ A လေးက B ဖြစ်လာတာလား ဆိုတော့ မဟုတ်ဘူး၊ ဆိုင်ရာအကြောင်းကြောင့် B ပေါ်လာတာ၊ ထို့အတူပဲ C ဆိုတာလည်း သူ့ဆိုင်ရာအကြောင်းကြောင့် သူပေါ် လာတာ၊ B ကနေ C ဖြစ်လာတာမဟုတ်ဘူး၊ တစ်ခါ C ကနေပြီး D ဆိုတဲ့အသံ ကြားတဲ့အခါလည်း C ကနေ D ဖြစ်သွားတာ မဟုတ်ဘူး၊ သူ့ဆိုင်ရာအကြောင်းတွေနဲ့ ပေါ်လာတာချည်းပဲ။

အဲဒါမျိုးလိုပဲ - ဘဝကူးလာတယ်ဆိုတာလည်း ဆိုင်ရာ ဆိုင်ရာ အကြောင်းတွေ တစ်ခုနဲ့တစ်ခု ဆက်စပ်မှုတော့ရှိတယ်၊

http://www.dhammadownload.com



ဒီလို အကြောင်းနဲ့အကျိုးနဲ့ ပေါ်လာတာသာဖြစ်တယ်၊ ဒါကြောင့်မို့ "ဘဝသစ်၌ ပြန်လည်မွေးဖွားခြင်း" ဆိုတာဟာ လူတွေရဲ့ ခန္ဓာကိုယ်မှာ ရှိတယ်လို့ ထင်မြင်ယူဆပြီး မှားယွင်းစွာပြောဆိုနေကြတဲ့ အသက်တို့ လိပ်ပြာကောင်တို့ ဝိညာဉ်ကောင်တို့ ဆိုတာတွေက ကူးပြောင်းပြီးတော့ နောက်ဘဝတစ်ခုမှာ သွားဝင်စားတာမျိုး မဟုတ်ဘူး၊ အဲဒီဘဝက လူက ဒီရောက်လာသလိုလို ဒီလိုပြောကြတယ်၊ ဒါကြောင့်မို့ နားလည်ဖို့ခက်တယ်ဆိုတာ ပြောတာနော်၊ ဆက်စပ်မှုကတော့ ရှိတယ်၊ ဆက်စပ်မှုမရှိပဲ မဟုတ်ဘူး။

ဥပမာ- ဦးဘဆိုတဲ့လူကြီး သေသွားတဲ့အခါ မောင်လှဆိုတဲ့ လူကလေးတစ်ယောက် မွေးဖွားလာတယ်၊ မောင်လှက ပြန်ပြီးတော့ မှတ်မိလို့ပြောတယ်၊ ဟိုဘဝက ဦးဘဟာ သူပဲလို့ပြောတယ်၊ ဒါပေမယ့် ဦးဘ မသေရင် မောင်လှ မဖြစ်ဘူး၊ မောင်လှရဲ့ဘဝနဲ့ ဦးဘရဲ့ဘဝဟာ Online ပေါ့၊ Line တစ်ခုတည်းမှာရှိတယ်၊ ရှေ့နဲ့ နောက်နဲ့ ကွာနေသေးတယ်၊ Line တစ်ခုတည်းမှာသာရှိတာ၊ သို့သော် ဦးဘရဲ့ ရုပ်တွေ နာမ်တွေ ခန္ဓာတွေကနေပြီး မောင်လှ ဖြစ်သွားတာတော့ မဟုတ်ဘူး၊ ဦးဘ လုပ်ခဲ့တဲ့ ကုသိုလ်ကံတွေ အကုသိုလ်ကံတွေ မောင်လှဘဝမှာ ခံရစံရတယ်၊ ဦးဘက ဒီဘဝမှာ သေသွားပြီ၊ ဟိုဘဝမှာ မောင်လှဖြစ်တယ်၊ ဦးဘလုပ်ခဲ့သမျှတွေ မောင်လှက ခံရတယ်၊ ဦးဘနဲ့ မောင်လှဟာ တစ်ယောက်တည်းလားလို့ဆိုရင် တစ်ယောက်တည်း မဟုတ်ဘူး၊ နှစ်ယောက်လားဆိုရင် နှစ်ယောက်လည်း မဟုတ်ဘူး၊ အကြောင်းအကျိုး ဆက်စပ်နေတယ်လို့ပဲ ပြောရမယ်၊ Line တစ်ခုတည်းမှာ ရှိနေတယ်၊ Line ဆိုတာကို သဘောပေါက်သွားလို့ရှိရင် ဒါ ထင်ရှားပါ

http://www.dhammadownload.com



တယ်၊ Line ဆိုတာ တစ်ခုပြီးတစ်ခု ဖြစ်ပျက်နေတဲ့ line ချည်းပဲနော်၊ အဲဒီဖြစ်ပျက်နေတဲ့ line ထဲမှာ ဝင်နေသည့်အတွက်ကြောင့် ပတ်သက်မှုတော့ ရှိတယ်ပေါ့။

စိတ်အစဉ်တွေကလည်း ထို့အတူပဲ၊ သေချာစဉ်းစားကြည့်- ဝီထိစိတ်တွေမှာ ပဉ္စဒွါရာဝဇ္ဇန်းစိတ် ချုပ်သွားတော့ စက္ခုဝိညာဏ် ပေါ်တယ်ဆိုရင် ပဉ္စဒွါရာဝဇ္ဇန်းစိတ်က စက္ခုဝိညာဏ် ဖြစ်လာတာလားဆို မဟုတ်ဘူး၊ ပဉ္စဒွါရာဝဇ္ဇန်းစိတ်က သူ့ဟာသူဖြစ်ပြီး ချုပ်သွားတာ၊ တစ်ခါ စက္ခုဝိညာဏ်စိတ် ချုပ်သွားတဲ့အခါ သမ္ပဋိစ္ဆိုင်းစိတ် ပေါ်တယ်ဆိုရင် သမ္ပဋိစ္ဆိုင်းက စက္ခုဝိညာဏ်က ဖြစ်လာတာလားဆို မဟုတ်ဘူး၊ အဲသလို စဉ်ဆက်မပြတ် စိတ်တွေဟာ ရှေ့စိတ်က ချုပ်သွားလို့ နောက်စိတ်တွေ ပေါ်လာတဲ့ သဘောမျိုးပဲ ရှိတယ်တဲ့။

အဲဒီတော့ ပဉ္စဒွါရာဝဇ္ဇန်းစိတ်ကို ဦးဘလို့ ပြောလို့ရှိရင် စက္ခုဝိညာဏ်စိတ်က မောင်လှလို့ ပြောလို့ ရတယ်ပေါ့၊ သူတို့ ၂-ခုဟာ Online ပဲ၊ Line တစ်ခုတည်းမှာ ရှိနေကြတာ၊ Line တစ်ခုတည်းမှာ ရှိနေလို့ တူညီသော ခံစားမှုတွေ၊ တူညီသော အခြေအနေတွေတော့ ရှိလာမှာပေါ့၊ သို့သော် တစ်ထပ်တည်း တစ်ဦးတည်းဆိုတာ ဒီလိုပြောလို့ မရဘူး၊ သဘာဝတရားက အဲဒီလို ကွဲပြားခြားနားမှု ရှိတယ်၊ ဒါကြောင့်မို့ နားလည်ဖို့ ခက်တယ်လို့ ပြောတာ။

ဖြစ်ပျက်ဆိုတဲ့ သဘာဝရဲ့ဖြစ်စဉ်ကြီးကို မသိဘူးဆိုလို့ရှိရင် ခုနက Reincarnation ဆိုတာကို လွယ်လွယ်နဲ့ လက်ခံမိသွားမယ်၊ ဗုဒ္ဓဘာသာဝင် ဖြစ်ပေမယ့်လို့ သာတိရဟန်းတို့လို အလွဲလွဲ

http://www.dhammadownload.com



အမှားမှား အတွေးအခေါ်တွေ ဖြစ်သွားနိုင်တယ်၊ မြတ်စွာဘုရားကတော့ Reincarnation မဟုတ်ဘူး၊ 'ပုနဗ္ဘဝ' တစ်ဖန်ဘဝဆိုပြီး ပဋိစ္စသမုပ္ပါဒ်မှာ အကြောင်းအကျိုးတွေအနေနဲ့ ရှင်းပြတယ်။

## အကြောင်းတရားက ၃-ခု

အဲလိုရှင်းပြတဲ့အခါမှာ ဘဝတစ်ခုကို ဖန်တီးတဲ့နေရာမှာ ဘယ်သူက အရေးပါတုန်းလို့ဆိုတော့ မြတ်စွာဘုရားက အရေးပါတဲ့ အကြောင်းတရားက ၃-ခု ရှိတယ်၊ "အဝိဇ္ဇာရယ်, တဏှာရယ်, ကံရယ်" အကြောင်း ၃-မျိုး ရှိတယ်၊ ဘဝတစ်ခုကို ဖန်ဆင်းတဲ့နေရာမှာ အဘိဓမ္မတသင်္ဂဟကျမ်းမှာ "**အဝိဇ္ဇာနုသယပရိက္ခိတ္တေန၊ တဏှာနုသယမူလကေန သင်္ခါရေန ဇနိယမာနံ**" လို့ဆိုပြီးတော့ ပဋိသန္ဓေစိတ်ကလေးကို ထုတ်လုပ်တဲ့ အကြောင်းတရားက ၃-မျိုး ထုတ်ပြတယ်၊ ဒါက main cuase လို့ဆိုတဲ့ အဓိကအကြောင်းကို ထုတ်ပြတာ၊ တခြားအကြောင်းတွေ မရှိဘူးလို့ မပြောရဘူး၊ အကြောင်းတွေထဲမှာ အရေးပါဆုံးအကြောင်းက အဲဒါတွေပဲ။

ဓမ္မစကြာတရားတော်မှာ မြတ်စွာဘုရားက 'ဒုက္ခသမုဒယ' ဆိုတဲ့နေရာမှာ တဏှာကို အဓိကထား ဟောတယ်၊ တဏှာကို အဓိကထားပြီးတော့ ပြောတာဖြစ်လို့ "**ကတမံ စ ဘိက္ခဝေ ဒုက္ခသမုဒယော အရိယသစ္စံ**" ဒုက္ခကိုဖြစ်စေတတ်တဲ့ အရိယသစ္စာဆိုတာ ဘာလဲလို့မေးပြီးတော့ "**ယာယံ တဏှာ ပေါနောဗ္ဘဝိကာ နန္ဒီရာဂ သဟဂတာ တတြ တတြာ ဘိနန္ဒိနီ**"၊ မြတ်စွာဘုရားက

http://www.dhammadownload.com



တဏှာကို အဓိကထားပြီးဟောတယ်၊ ဒုက္ခကို ထုတ်လုပ်တဲ့နေရာမှာ တဏှာဟာ အဓိကပဲ။

ဒုက္ခဆိုတာ ဘယ်သူ့ကို နာမည်ပေးထားတာတုန်းဆို ရုပ်နာမ်ကို နာမည်ပေးထားတာ၊ ခန္ဓာ ၅-ပါးကို နာမည်ပေးထားတာ၊ ဒုက္ခလို့ခေါ်ရတဲ့ ခန္ဓာ ၅-ပါးရဲ့ အကြောင်းတရားက ဘယ်သူလဲလို့ ဆိုတဲ့အခါကျတော့ တဏှာပေါ့၊ အဲဒီ တဏှာကို **"ယာယံ တဏှာ ပေါနောဗ္ဘဝိကာ"** အဲဒီစကားလုံးရှိတယ်၊ **"ပေါနောဗ္ဘဝိကာ"** ဆိုတာ **'ပုန+ဘဝ+ဏ္ဍက'**၊ **'ပုနဗ္ဘဝ'** ဆိုတာ ဘဝအသစ်, နောက်ထပ်ဘဝ တစ်ခုကို **'ဏ္ဍက'** ဖြစ်စေတတ်တယ်လို့ဆိုတော့ ဘဝရဲ့ အဓိက အကြောင်းအနေနဲ့ တဏှာလို့ မြတ်စွာဘုရားက ဟောထားတာ၊ ဓမ္မစကြာတရားတော်မှာ ဘဝသစ်မှာ ဖြစ်နေတာ၊ ဟော ဒီ အတွယ်အတာရှိလို့ ဖြစ်နေတယ်လို့ ဒီလိုပြောတယ်။

အဲဒီတော့ ဖြစ်တယ်လို့ ဆိုကတည်းက မြဲနေတဲ့အရာတစ်ခု ဟိုကနေသွား ဒီကနေသွားတာမျိုး မဟုတ်ဘူး၊ အကြောင်းရှိလို့ ဖြစ်လာတယ်ဆိုတဲ့ သဘောကို ပြောတာနော်၊ တဏှာသည် ဘဝသစ်ကိုဖြစ်စေတတ်တယ်၊ ဒါက ဓမ္မစကြာမှာ တဏှာကို အဓိကထားပြီး မြတ်စွာဘုရားဟောတာ၊ တခြား ထိုထိုသုတ္တန်တွေမှာလည်းပဲ တဏှာကို **'ဘဝနေတ္တိ'** လို့ ဘဝကို ဆောင်တတ်တဲ့၊ ဘဝကို ဦးဆောင်ဦးရွက် လုပ်သွားတတ်တဲ့ တရားအဖြစ် မြတ်စွာဘုရားက ဟောတယ်။

အဲဒီတော့ တဏှာတစ်ခုတည်း လုပ်တာလား ဆိုတော့ မဟုတ်ဘူးတဲ့၊ တဏှာက ဘယ်သူ့ဆီက အကူအညီတွေ ရတုန်းဆိုရင် အဝိဇ္ဇာရဲ့အကူအညီရတယ်။

http://www.dhammadownload.com



အဝိဇ္ဇာက အာရုံရဲ့အပြစ်ကို မမြင်အောင် ဖုံးကွယ်ပြီးတော့ ပေးထားတာ၊ ပေးထားသည့် အတွက်ကြောင့် အဝိဇ္ဇာဖုံးထားတဲ့ အာရုံကို အမှန်မသိတဲ့အခါမှာ တဏှာက တွယ်တာမှုကို ဖြစ်စေတယ်၊ အဲဒီတဏှာက တွယ်တာတဲ့အခါမှာ ကံလို့ခေါ်တဲ့ သင်္ခါရ တရားက တွန်းပို့လိုက်တာ၊ ဘဝသစ်တစ်ခု ရောက်လာတာ၊ ဘယ်သူ့ကို တွန်းပို့တာတုန်းလို့မေးရင် တွန်းပို့စရာ ခုနက Reincarnation ကို, Spirit ကို, ဝိညာဉ်ကောင်ကို တွန်းပို့တာ မဟုတ်ဘူး၊ သူတို့ ၃-ဦးကနေ စုပြီးတော့ ဖန်တီးလိုက်တဲ့အခါ အကျိုးတစ်ခု ပေါ်လာတာကို ပြောပြတာ၊ ခုနတုန်းက "**စက္ခုံစ ပဋိစ္စ ရူပေစ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ**" မျက်စိနဲ့ အဆင်းအာရုံလေး ဆုံပေးလိုက်တဲ့အခါ စက္ခုဝိညာဏ်စိတ်လေး ပေါ်တယ်လို့ ဆိုတာ လိုပဲ အကြောင်းကြောင့်ပေါ်လာတဲ့ အကျိုးတရားလေး တစ်ခု မျှသာ ဖြစ်တယ်၊ ဘဝကူးတယ် ဆိုတာနော်။

ဆိုပါစို့- မီးခြစ်ဘူးထဲကနေ မီးတောက်ကလေး ပေါ်လာတယ်ဆိုတာဟာ ဘာကြောင့်ပေါ်တာတုန်းလို့ သေချာမေးကြည့်လိုက်ရင် ဂက်စ်မီးခြစ်ဘူးမှာကြည့်ရင် အထဲထဲမှာ ဂက်စ်ရှိတယ်၊ ဘီးလုံးရှိတယ်၊ ဘီးလုံးအောက်က အခံအမာရှိတယ်၊ ဖိခြစ်တဲ့ သူရဲ့ စွမ်းအားရှိတယ်၊ အဲဒီအကြောင်း ၄-ခု ပေါင်းဆုံလိုက်တဲ့ အခါ မီးတောက်ကလေး ပေါ်လာတာမို့လား၊ အဲဒီတော့ မီးတောက်က အကြောင်း ၄-ချက်ကနေ ပေါင်းဆုံပြီးတော့ ထုတ်လုပ်ပေးလိုက်တာ၊ ဘဝတစ်ခုကို ဖြစ်စေတယ်ဆိုတာ အဲဒီ မီးတောက်ကလေးဟာ အတိတ်ဘဝက မီးတောက်ကလေးဟာ ဒီကို ကူးလာတာ မဟုတ်ဘူး၊ ဆိုင်ရာအကြောင်းကြောင့် ဖြစ်လာတယ် ဒီလိုပြောလိုတာ။

http://www.dhammadownload.com



အဲဒီတော့ ဘဝတစ်ခုကို ဖန်ဆင်းတဲ့အခါမှာ အဝိဇ္ဇာရယ် တဏှာရယ် ကံရယ် ဒီ ၃-ခုကနေစုပြီး ဖန်ဆင်းလိုက်တာ၊ လူတွေဟာ နေ့စဉ်နဲ့အမျှ အသက်ရှင်နေတဲ့အချိန်မှာ ဘာတွေလုပ်နေကြတုန်း၊ လုပ်သင့်တာ မလုပ်သင့်တာ ခွဲခြားမသိသည့်အတွက်ကြောင့် လုပ်သင့်တာကိုမလုပ်သင့်ဘူးလို့ထင်နေတယ်၊ မလုပ်သင့်တာကို လုပ်သင့်တယ်လို့ ထင်နေတယ်၊ အဲဒါတွေက အဝိဇ္ဇာက ကာထားတာ၊ ကာထားသည့်အတွက်ကြောင့်၊ ထိုအာရုံတွေရဲ့ သဘာဝအမှန်ကို မသိသည့်အတွက်ကြောင့် တွယ်တာမှုတွေ မက်မောမှုတွေ လိုချင်မှုတွေ စွဲလန်းမှုတွေပေါ်လာတယ်၊ ဟော-အဝိဇ္ဇာတွေကလည်း အင်အားကောင်းလာတယ်၊ တဏှာတွေကလည်း အင်အားကောင်းလာတယ်၊ တွယ်တာမှုတွေကို အကြောင်းပြုပြီးတော့ ရလိုမှုနဲ့ ကြိုးပမ်းမှုတွေရော ပေါ်မလာဘူးလား၊ အဲဒီ ကြိုးပမ်းမှုတွေအားလုံးဟာ ကံအရာ မြောက်သွားတယ်ပေါ့၊ စိတ်ရဲ့ လုပ်ဆောင်မှု၊ နှုတ်ကလုပ်ဆောင်မှု၊ ကိုယ်ထိလက်ရောက် လုပ်ဆောင်မှုဆိုတဲ့ လုပ်ဆောင်မှုတွေပဲ- ကံရဲ့အရာ၊ လူတွေရဲ့သန္တာန်မှာ ကံတွေဟာ စုမိဆောင်းမိဖြစ်ပြီး စွမ်းအားသတ္တိအပြည့်နဲ့ လူတွေရဲ့ စိတ်အစဉ်ထဲမှာဖြစ်တယ်။

အဲဒီ ဖြစ်လာတဲ့ ကံတရားတွေဟာ စုမိဆောင်းမိ ဖြစ်နေတော့ ဘဝတစ်ခုကို ဖန်ဆင်းကြတော့မယ်ဆိုရင် လက်ရှိဘဝကြီး မချုပ်သေးသ၍ သူတို့က လုပ်လို့ မရသေးဘူး၊ ကံအသစ်တွေက လက်ရှိဘဝကြီး ကုန်ဆုံးတဲ့အချိန်လေးမှာ သူတို့ ဝိုင်းပြီးတော့ ဘယ်လိုလုပ်ကြတုန်းဆိုရင် ကြည့်။

http://www.dhammadownload.com



ဆိုပါစို့- မနေ့က ပြောခဲ့တဲ့အတိုင်း ဘဝနိဂုံးသေဆုံးခြင်း ဆိုတာကို ဥပမာလေးနဲ့ပြောရရင် ဦးဘဆိုတဲ့ လူကြီးတစ်ယောက် ရောဂါဖြစ်နေလို့ ခုနက သေခြင်း ၄-မျိုးထဲက အကြောင်းတစ်ခုခုနဲ့ သူသေတော့မယ်လို့ ဆိုတဲ့အချိန်လေးမှာ ဦးဘရဲ့ အသက်တို့ လိပ်ပြာတို့ ဝိညာဉ်တို့က ထွက်သွားပြီးတော့ မောင်လှခန္ဓာကိုယ်ထဲ ရောက်သွားတာ မဟုတ်ဘူးနော်၊ အဲဒီ ဦးဘကြီး သေငယ်ဇောနဲ့ မျောနေတဲ့အချိန်မှာ အကျိုးတရားတွေကို ထုတ်လုပ်မယ့် ဘယ် အရာတွေရှိတုန်းဆို - သူ့ရဲ့သန္တာန်မှာ ဖြစ်နေတဲ့ အဝိဇ္ဇာရှိတယ်, တဏှာရှိတယ်, ကံရှိတယ်၊ အဲဒီ ဦးဘကြီး သေငယ်ဇောနဲ့ မျောနေ တဲ့အချိန်မှာ သူလုပ်ခဲ့တဲ့ အမှုတွေဟာ သူ့ရဲ့စိတ်အာရုံကို လွှမ်းမိုး ပြီးတော့ ပေါ်လာတယ်တဲ့၊ သေခါနီးဆဲဆဲမှာ လွှမ်းမိုးပြီးပေါ်တာ၊ အဲဒီ ပေါ်လာတဲ့အရာတွေဟာ ကံရင်လည်းဖြစ်မယ်၊ ကမ္မနိမိတ် တွေရင်လည်း ဖြစ်မယ်၊ ဂတိနိမိတ်တွေရင်လည်း ဖြစ်မယ်၊ ဒီလို ဆိုလိုတယ်နော်။

သူလုပ်ခဲ့တဲ့ ကံတွေဟာ သူ့သန္တာန်မှာ အသစ် အနေ အထားမျိုး ထင်ပေါ်နေတယ် သို့မဟုတ် သူကံလုပ်ခဲ့တဲ့အချိန်က အကျိုးပေးခွင့်ရပြီး အလှည့်ကျတဲ့ကံက အဲဒီနေရာ ရောက်လာ တဲ့ကံက စွမ်းအားအရှိဆုံးကံက ရှေ့တန်းတက်လာတာ၊ ရှေ့တန်း တက်လာပြီးတော့ ဦးဘရဲ့ မျက်စိထဲမှာဖြစ်စေ, နားထဲမှာဖြစ်စေ, နှာခေါင်းထဲမှာဖြစ်စေ, လျှာထဲမှာဖြစ်စေ, ခန္ဓာကိုယ်ထဲမှာဖြစ်စေ, စိတ်ထဲမှာဖြစ်စေ ဒွါရခြောက်ပါးမှာ လွှမ်းမိုးပြီးတော့ အဲဒီအာရုံ တွေက ဝင်ရောက်လာတယ်တဲ့၊ အိပ်မက်ထဲမှာ မက်နေသလို ဝင်ရောက်လာတဲ့အခါကျတော့ သေငယ်ဇောနဲ့ မျောနေတဲ့

http://www.dhammadownload.com



ဦးဘရဲ့စိတ်တွေဟာ အဲဒီအာရုံပေါ်မှာ နစ်မျောနေတာ၊ အဲဒီ အာရုံတွေက သူ့ကို လွှမ်းမိုးနေတာ။

အဲဒီ လွှမ်းမိုးနေတဲ့ အချိန်ကလေးမှာ ကံဟောင်း ချုပ်ငြိမ်း သွားသည့်အတွက်ကြောင့် စုတိဆိုတဲ့ စိတ်ကလေး နောက်ဆုံး အနေနဲ့ ဖြစ်လိုက်တယ်၊ ကမ္မဇရုပ်တွေကလည်း အတိတ်က အခုလက်ရှိ ဘဝကံရဲ့ လုပ်ငန်းတွေ ပြီးသွားလို့ ဒီဘဝကနေ ရုပ်သိမ်းလည်း ရုပ်သိမ်းလိုက်တယ်။

ခုနက လွှမ်းမိုးနေတဲ့ အာရုံတွေပေါ်ရှိရာကို အဝိဇ္ဇာကနေ အဲဒီ အာရုံတွေရဲ့သဘာဝကို မသိအောင် ဖုံးကွယ်ထားတယ်၊ တဏှာက အဲဒီအာရုံပေါ်မှာ ဦးဘကြီးက ကျေနပ်ပြီးတော့ စိတ် အစဉ်ဟာ ညွှတ်ပြီးတော့နေတယ်၊ အဲဒီအချိန်လေးမှာ သင်္ခါရ လို့ဆိုတဲ့ ကံနဲ့ ယှဉ်ဖက်သဘာဝတရားတွေအားလုံးက တွန်းပို့ လိုက်သလိုပဲ ဟိုဘဝမှာ သန္ဓေစိတ်ကလေး သွားပေါ်တာ၊ ဒီလို ကူးတာ၊ ဘဝကူးတယ် ဆိုတာနော်။

မြန်မာစာတွေထဲမှာ "လောက်လန်းသဖွယ် ဝိညာဏ်တွယ်" ဆိုတဲ့စကားကို ပြောကြတယ်၊ အဲဒီ 'လောက်လန်းသဖွယ် ဝိညာဏ် တွယ်' ဆိုတာက လောက်လန်းဆိုတဲ့ အကောင်လေးတွေ မြင်ဖူး ပါလိမ့်မယ်၊ သူက ခါးလေးကုန်းပြီးတော့ သွားလေ့ရှိတယ်၊ အမြီး ပိုင်းက ခြေထောက်ပါတယ်၊ ခေါင်းပိုင်းက ခြေထောက်ပါတယ်၊ အလယ်ကောင်မှာ ခြေထောက် မပါဘူး၊ ခြေထောက်မပါတော့ အမြီးပိုင်းက ခြေထောက်က ထောက်ပြီးတော့ ခေါင်းလေးက မြှောက်ပြီးတော့ သူကုပ်ရမယ့်နေရာကို သူရှာတယ်၊ ရှာပြီးတော့

http://www.dhammadownload.com



ကုပ်မိပြီဆို နောက်က ခြေထောက်က လွှတ်လိုက်တယ်ပေါ့၊ အဲဒီနေရာမှာ အဓိပ္ပာယ်အမျိုးမျိုး ယူကြတယ်။

ဗုဒ္ဓမြတ်စွာရဲ့တရားနဲ့ ကိုက်အောင်ယူမယ် ဆိုလို့ရှိရင် ဘယ်လိုယူနိုင်တုန်း "လောက်လန်းသဖွယ် ဝိညာဏ်တွယ်" ဆိုတာ အမှန်ကတော့ ဒီဝိညာဏ်ဆိုတဲ့အရာက မရဏာသန္ဓေဇောကို ပြောမယ်ဆိုလို့ရှိရင် အဓိပ္ပာယ်ရှိတယ်ပေါ့၊ မရဏာသန္ဓေဇော မပြောဘဲနဲ့ လူတွေရဲ့ အသက် လိပ်ပြာ ဝိညာဉ်ကောင်လေးက ဒီခန္ဓာကိုယ်ကြီးက နောက်ခန္ဓာကိုယ်ကြီးကို မတွေ့သေးလို့ရှိရင် မလွှတ်သေးဘူး၊ ဒီခန္ဓာကိုယ်ထဲက ထွက်မသွားသေးဘူး၊ နောက်ခန္ဓာကိုယ်ရှိမှ သူက ထွက်သွားတယ်ဆိုတဲ့ အဓိပ္ပာယ်မျိုး ဆိုရင်တော့ မှားတယ်ပေါ့နော်။

အဲသလို မဟုတ်ဘဲနဲ့ စိတ်က အာရုံယူတဲ့ သဘောမျိုးကို ပြောမယ်ဆိုလို့ရှိရင် 'လောက်လန်းသဖွယ် ဝိညာဏ်တွယ်' ဆိုတာ ဘာကိုပြောတာတုန်း၊ ခုနက ဦးဘကြီး သေငယ်ဇောနဲ့ မျောနေတယ်ဆိုတာကြည့်- နောက်ဘဝဖြစ်မယ့် အာရုံတွေကိုမြင်နေတာ၊ ဂတိနိမိတ်တွေကို မြင်နေတယ်ဆိုတာ နောင်ဘဝ အာရုံတွေကို မြင်နေပြီ၊ ဒီဘဝဟာလည်း လွှတ်လိုက်ရော အဲဒီ နောင်ဘဝ မြင်နေတဲ့ဟာတွေပေါ်မှာ သန္ဓေစိတ်ဖြစ်သွားတာ၊ အဲဒီအာရုံပေါ်မှာ အာရုံပြုပြီး သန္ဓေစိတ်လေးက ဖြစ်ရတာ၊ စိတ်ဆိုတာ အာရုံမရှိဘဲနဲ့ မဖြစ်ဘူးဆိုတာ အားလုံး သဘောပေါက်ပြီးသားနော်၊ ဘယ်စိတ်ပဲဖြစ်ဖြစ် အာရုံမရှိရင် မဖြစ်ဘူးဆိုတာ သေချာတယ်၊ အာရုံနဲ့ကင်းပြီး ဖြစ်တဲ့စိတ်ဆိုတာ လောကမှာ မရှိဘူး၊ စိတ်တိုင်း စိတ်တိုင်းဟာ အာရုံရှိတယ်။

http://www.dhammadownload.com



ဒါကြောင့်မို့လို့ လူ့ဘဝအစ သန္ဓေစိတ်လေးက ဘာအာရုံကို အာရုံပြုတာတုန်းဆို ခုနက သေခါနီးမှာ သေငယ်ဇောနဲ့ မျောနေတဲ့အချိန် မိမိပြုလုပ်ခဲ့တဲ့ကံ, ထိုကံပြုစဉ်က အခြေအနေတွေ၊ အဲဒီအခြေအနေတွေကို မသေခင်ကတည်းက မြင်နေတယ်၊ အဲဒီအာရုံက စိတ်ကို လွှမ်းထားတယ်၊ အဲဒီလွှမ်းထားတဲ့အာရုံကို အာရုံပြုပြီး သန္ဓေစိတ်လေးက ပေါ်ရတာ။

အဲဒါကြောင့်မို့လို့ သေငယ်ဇောနဲ့ မျောနေတဲ့ ဦးဘကြီး အသက်လည်း ထွက်သွားရော ဦးဘကြီး ဘဝတုန်းကနေပြီး သေငယ်ဇောနဲ့ မျောပြီးတော့ ယူထားတဲ့ အာရုံကလေးအတိုင်း နောက်ဘဝမှာ မောင်လှဆိုတာပေါ်လာပြန်တယ်၊ ဒီလို ဆက်စပ်မှုတော့ ရှိတယ်ပေါ့၊ ဦးဘ ဘဝတုန်းက ယူထားတဲ့ အာရုံတွေနဲ့ ကံအသစ်က မောင်လှရဲ့ ပဋိသန္ဓေစိတ်ကလေး စတင်ပြီးတော့ ဖန်ဆင်းလိုက်တယ်၊ ဦးဘရဲ့စုတိစိတ်ကလေး ချုပ်သွားတဲ့ အချိန်လေးမှာ မောင်လှရဲ့ ပဋိသန္ဓေစိတ်ကလေး ပေါ်လာတယ်၊ ဦးဘရဲ့ စုတိစိတ်ကလေး မချုပ်မချင်း မောင်လှရဲ့ သန္ဓေစိတ်ကလေး မပေါ်ဘူးတဲ့၊ အဲဒီ စုတိစိတ်ကလေး ဖြစ်ပြီး ချုပ်သွားခြင်းသည် မောင်လှရဲ့ သန္ဓေစိတ်ပေါ်ခြင်းရဲ့ အကြောင်းတရား ဖြစ်တယ်၊ အဲဒါကို **အနန္တရသတ္တိ** လို့ ခေါ်တယ်၊ "**အနန္တရပစ္စယော၊ သမနန္တရပစ္စယော၊ နတ္ထိပစ္စယော၊ ဝိဂတပစ္စယော**" သူချုပ်သွားမှ နောက်ကဟာ ပေါ်လို့ရတာ။

အဲဒီမှာ ဦးဘရဲ့ စုတိစိတ်က မောင်လှရဲ့ ပဋိသန္ဓေစိတ် ဖြစ်သွားတယ်လို့ ဒီလိုပြောလို့ရမလား၊ မရဘူးနော်၊ ဦးဘရဲ့ စုတိစိတ်က အတိတ်ကံကြောင့်ဖြစ်တယ်၊ ဆိုပါစို့ - ဦးဘရဲ့

http://www.dhammadownload.com



ပဋိသန္ဓေစိတ်လေးဟာ အတိတ်က ကံကနေ ဖြစ်လာတယ်၊ ထို ကံကနေ အကျိုးပေးလိုက်လို့ ဦးဘရဲ့တစ်သက်တာမှာ ဘဝင်စိတ် တွေဖြစ်တယ်၊ ပဋိသန္ဓေစိတ်, ဘဝင်စိတ်ဖြစ်တယ်၊ နောက်ဆုံး စိတ်လေးကို စုတိလို့ခေါ်တယ်။

ဦးဘရဲ့စိတ်က ဆိုပါစို့- မဟာဝိပါက် ဉာဏဝိပ္ပယုတ်စိတ် ထဲက တစ်ခုခုဖြစ်တယ်၊ ဦးဘရဲ့ဘဝမှာ တရားနာတယ်၊ တရား အားထုတ်တယ်၊ စာပေတွေ လိုက်စားတယ်၊ ကုသိုလ်ကောင်းမှု တွေ လုပ်တယ်၊ အဲဒီစွမ်းအားကြောင့် ကြည့်နော် ဦးဘ ဘဝတုန်း ကတော့ ဉာဏဝိပ္ပယုတ်နဲ့ ပဋိသန္ဓေ နေလာတယ်၊ ဉာဏဝိပ္ပယုတ် နဲ့ ပဋိသန္ဓေ နေလာသည့်အတွက်ကြောင့် သူ့ရဲ့စုတိကလည်းပဲ ဉာဏဝိပ္ပယုတ်စုတိပဲ၊ အဲဒီစုတိလေး ချုပ်သွားတဲ့အခါ နောက်ထပ် ပဋိသန္ဓေကျတော့ သူလုပ်ခဲ့တဲ့ ကံတွေက နေပြီးတော့ သောမနဿသဟဂုတ် ဉာဏသမ္ပယုတ် မဟာဝိပါက်စိတ် ဆိုတာ ကို အကျိုးပေးလိုက်တယ်။

ဟော- မောင်လှရဲ့ သန္ဓေစိတ်ကျတော့ ဉာဏသမ္ပယုတ် ဖြစ်သွားတယ်၊ ဦးဘရဲ့စုတိစိတ်တုန်းက ဉာဏဝိပ္ပယုတ် ဖြစ်တယ်၊ အဲဒီတော့ စုတိစိတ်နဲ့ ပဋိသန္ဓေစိတ်ဟာ တူသေးရဲ့လား၊ မတူ တော့ဘူး၊ ကံတရားကနေ ဖန်တီးပြီးတော့ သွားတာ၊ ဒီတော့ ဦးဘရဲ့ စုတိစိတ်လေးက ဒီမှာ ပဋိသန္ဓေစိတ်အနေနဲ့ မောင်လှထဲ ဝင်စားလာတာလားဆိုတော့ မဟုတ်ဘူး၊ ဟုတ်ရင် ထပ်တူပဲ ဖြစ်နေမှာပေ့ါ၊ သူ့ရဲ့ ဒီဝိညာဏ်စိတ်လေးက ထပ်တူပဲ ဖြစ်နေ မှာပေ့ါ၊ အဲသလို ထပ်တူ မဟုတ်ဘူးတဲ့၊ သဘာဝချင်း အခြေအနေ ချင်း အများကြီး ကွဲပြားခြားနားတယ်၊ ဒီလို ဆိုလိုတာနော်။

http://www.dhammadownload.com



အဲဒီတော့ ကံ, ကမ္မနိမိတ်, ဂတိနိမိတ်လို့ ဆိုတာတွေကို အာရုံပြုပြီး ဘဝသစ်မှာ ဖြစ်ရတယ်။ လူတွေမှာ ကောင်းတာလုပ်တာရှိတယ်၊ မကောင်းတာလုပ်တာ ရှိတယ်၊ ကောင်းတာလုပ်လို့ရှိရင် ကောင်းတဲ့ ကံရဲ့စွမ်းအားနဲ့ ကောင်းတဲ့အရိပ်တွေ ပေါ်တယ်၊ မကောင်းတာလုပ်တဲ့ ပုဂ္ဂိုလ်ကျတော့ မကောင်းတဲ့ ကံရဲ့စွမ်းအားနဲ့ မကောင်းတဲ့အရိပ်နိမိတ်တွေ ပေါ်လာတယ်၊ အဲဒီ ပေါ်လာတဲ့အပေါ်မှာ သန္ဓေမျိုးစေ့လေးက ကျသွားတာတဲ့။

ဒါကြောင့်မို့ မြတ်စွာဘုရားက ဘဝသုတ္တန် ၂-ခု၊ ပထမ ဘဝသုတ်၊ ဒုတိယဘဝသုတ်ဆိုတာ အင်္ဂုတ္တရနိကာယ်မှာရှိတယ်၊ အဲဒီမှာ ကံကို အဓိကထား ဟောတယ်၊ **"ကမ္မံ ခေတ္တံ ဝိညာဏံ ဗီဇံ တဏှာ သေနေဟော၊ အဝိဇ္ဇာ နီဝရဏာနံ တဏှာ သံယောဇနာနံ"** ဟောဒီ ၂-ခုရဲ့ အကူအညီရှိတယ်၊ အဝိဇ္ဇာက စိတ်ကို ဆို့ပိတ်ထားလိုက်တာ၊ ဆို့ပိတ်ထားလိုက်တာဆိုတာ သူမမြင်စေချင်တာတွေ မမြင်အောင် ဆို့ပိတ်ထားလိုက်တာ။ ဆိုလိုတာက အဝိဇ္ဇာက သဘာဝကို မမြင်အောင် ဆို့ပိတ်ထားလိုက်တာ၊ အဝိဇ္ဇာက ဖုံးထားလိုက်သည့်အတွက်ကြောင့် အဆိုးကို အကောင်းမြင်တယ်, အကောင်းကို အဆိုးမြင်တယ်၊ ပြောင်းပြန်တွေ မြင်ကုန်ရော၊ သူက အမှန်မမြင်အောင်သာ လုပ်တာ၊ မမြင်အောင် လုံးဝ ကွယ်ထားတာတော့ မဟုတ်ဘူး၊ ဒါကြောင့်မို့လို့ အဝိဇ္ဇာကို **"သဘာဝ ပဋိစ္ဆာဒန လက္ခဏာ"** လို့ ဒီလို ဟောတယ်၊ **သဘာဝ ပဋိစ္ဆာဒန** ဆိုတာ တကယ့်အစစ်အမှန်ကို မမြင်အောင် ဖုံးတာ၊ အကုန်လုံးကိုဖုံးတာလို့ ပြောတာမဟုတ်ဘူးတဲ့၊ တကယ့် အစစ်အမှန်ကို မမြင်အောင် ဖုံးတယ်ဆိုတော့ အစစ်အမှန် မဟုတ်တာ

http://www.dhammadownload.com



တွေကို ပြတယ်ဆိုတဲ့ အဓိပ္ပာယ် မရပေဘူးလား၊ အစစ်ကို ဖုံးထားတယ်ဆိုရင် အတုကိုပြတယ်ဆိုတဲ့ အဓိပ္ပာယ်က အလိုလိုပါပြီးသား ဖြစ်သွားတယ်ပေါ့၊ ဟော - အဝိဇ္ဇာက အတုကို ပြတာ။

အဲဒီလို အတုကို ပြထားတဲ့အခါ **'တဏှာ သံယောဇနာ'** တဏှာက တွယ်လိုက်တယ်, ချည်လိုက်တယ်, နှောင်လိုက်တယ်, တွယ်တာလိုက်တယ်၊ အဲဒီအာရုံပေါ်မှာ တဏှာနှောင်ကြိုးက ချည်လိုက်တယ်၊ ဩော်- သတ္တဝါဟာ ဒီအာရုံထဲက ဘယ်လိုလုပ် ရုန်းထွက်လို့ ရတော့မှာတုန်း၊ အဲဒီအာရုံလေးထဲမှာ နစ်မျော နေတဲ့အချိန်မှာ ကံက မျိုးစေ့ချထည့်လိုက်တယ်ပေါ့။

ဒီနေရာမှာ အရေးကြီးဆုံးက ဘယ်သူလဲဆိုရင် **"ကမ္မံ ခေတ္တံ" "ဝိညာဏံ ဗီဇံ"** လို့ သုံးတာ ဘယ်ဝိညာဏ်ကို သုံးတာ တုန်းဆိုတော့ 'အဘိသင်္ခါရဝိညာဏ်'၊ "အဘိသင်္ခါရဝိညာဏ်' - ဘဝတစ်ခုကို ဖန်ဆင်းနေတဲ့ဝိညာဏ်ဆိုတာ မရဏာသန္နဇောနဲ့ ယှဉ်တွဲပြီးတော့လာတဲ့ ကံတရား၊ မရဏာသန္နဇောက ဒီအာရုံတွေကို ယူထားတာနော်၊ အဲဒီ မရဏာသန္နဇောဝိညာဏ်စိတ်ဟာ သန္ဓေမျိုးစေ့လေးကို ချပေးလိုက်တယ်တဲ့၊ အဲဒီ ကံတရားရဲ့ စွမ်းအား၊ ဒီလိုဆိုလိုတယ်နော်။

အဲဒီနေရာမှာ "ကံက လယ်မြေနဲ့တူပြီးတော့ တဏှာက အစေးနဲ့တူပြီး ဝိညာဏ်က မျိုးစေ့နဲ့ တူတယ်" အဲဒါကြောင့်မို့လို့ ဘဝအပင်လေးတစ်ခုဟာ ပေါက်လာရတယ် - ဒီလိုဆိုလိုတာ၊ အဲဒီတော့ အပင်ပေါက်လာတယ် ဆိုကတည်းက ဒီကနေ သွားပြီး တော့ ဝင်စားတာမဟုတ်ဘူး၊ အကြောင်းတွေကြောင့် စုပေါင်း

http://www.dhammadownload.com



ပြီးတော့ ဖြစ်သွားတာဖြစ်တယ်၊ ဒါက သတ္တဝါတွေက ဘဝတစ်ခု ကူးပြီး ဘဝတစ်ခုဖြစ်ပုံ ဒီလိုပြောတယ်။

မြတ်စွာဘုရားနဲ့ ရဟန္တာပုဂ္ဂိုလ်တွေကျတော့ အဲဒီ အဝိဇ္ဇာရယ်, တဏှာရယ်, ကံရယ်လို့ ဆိုတဲ့ ဘဝတစ်ခုကို ဖန်တီးပေးနေတဲ့ အဓိကအကြောင်းအရာတွေထဲက ဘယ်ဟာကို ဖျက်ဆီးလိုက်တာတုန်းဆိုတော့ အဝိဇ္ဇာနဲ့ တဏှာကို ဖျက်ဆီးပစ်တာ၊ အဝိဇ္ဇာနဲ့ တဏှာကို ဖျက်ဆီးထားလိုက်သဖြင့် အဝိဇ္ဇာ မရှိတော့သည့်အတွက်ကြောင့် သဘာဝကို မဖုံးနိုင်တော့ဘူး၊ မဖုံးနိုင်တော့လို့ သဘာဝကို အရှင်းကြီးမြင်နေတယ်၊ သဘာဝကို အရှင်းကြီးမြင်နေတော့ သူ့သဘာဝအတိုင်းဆိုရင် တွယ်တာမှုတဏှာဆိုတာ မလာနိုင်ဘူး၊ အဝိဇ္ဇာကလည်း ဖုံးထားတာမရှိဘူး၊ တဏှာကလည်း မတွယ်တော့ဘူးဆိုလို့ရှိရင် ကံတွေ ရှိနေသော်လည်း အကူအညီတွေ မရှိတော့ဘူးဆိုရင် ပစ်ချခြင်းငှာ မစွမ်းနိုင်ဘူး၊ အဲဒါကို ပြောတာနော်၊ အကူအညီ မရှိတော့ဘူးဆိုရင် နောက်ဘဝတစ်ခုကို ကံက မဖန်တီးနိုင်တော့ဘူးလို့ ပြောတာ။

အဲဒီတော့ ရဟန္တာတွေရဲ့ဘဝ, မြတ်စွာဘုရားရဲ့ ဘဝမှာ အတိတ်က ကံတရားတွေ ရှိနေသေးသော်လည်း ဘဝတစ်ခုကို တည်ဆောက်နိုင်တဲ့စွမ်းအား ကုန်သွားပြီ၊ ဘယ်အချိန်ကတည်းက ကုန်သွားတာတုန်းဆို တဏှာနဲ့ အဝိဇ္ဇာ ကုန်သွားကတည်းက ကံတွေက အလုပ်လုပ်လို့ မရတော့ဘူး၊ ပုစွန်လုံးကို ခြေထောက်တွေ ချိုးထားလိုက်သလိုပဲ အဝိဇ္ဇာနဲ့ တဏှာကို ဖြတ်ထားလိုက်ကတည်းက . . ဒီပုစွန်လုံးဟာ ခြေထောက်တွေ ချိုးထားလိုက်လို့ရှိရင် ပုစွန်လုံး သွားလို့ရသေးရဲ့လား၊ မရတော့သလိုပဲ -

http://www.dhammadownload.com



အဲသလို ရှိနေသေးသော်လည်းပဲ အကျိုးပေးခွင့် မရဘူး၊ ဒါကြောင့်မို့ ရှိနေသေးသော်လည်း အကျိုးပေးခွင့်မရသည့် အတွက်ကြောင့် ကံကိုလည်း ကုန်စေတယ်လို့ ဒီလိုသုံးတာ၊ တကယ်ကတော့ ကံကို ပယ်လို့မရဘူး၊ ကိလေသာကိုသာပယ်တာ၊ ဒီနေရာမှာ ကိလေသာဆိုတာ အဝိဇ္ဇာနဲ့ တဏှာပဲ။

အဲဒီတော့ အဝိဇ္ဇာနဲ့တဏှာကို ပယ်လိုက်တာနဲ့တစ်ပြိုင်နက် ကံတွေက အလုပ်မလုပ်နိုင်ဘူး၊ အလုပ်မလုပ်နိုင်သည့် အတွက်ကြောင့် ဘဝသစ်တစ်ခုကို နောက်ထပ် ဖော်ထုတ်နိုင်ခြင်းငှာ မစွမ်းနိုင်ဘူးပေါ့၊ ဘဝပြတ်သွားတယ်။

အဲဒါကြောင့် ဘုရားအလောင်းတော်လေး ဖွားမြင်လာတဲ့ အချိန်ကပဲ ခြေလှမ်း ၇-လှမ်း လှမ်းပြီးတော့ သူ့ရဲ့ဘဝကို ကြွေးကြော်ခဲ့တာရှိတယ်၊ **"အဂ္ဂေါ ဟမသ္မိ လောကဿ၊ ဇေဋ္ဌော ဟမသ္မိ လောကဿ သေဋ္ဌော ဟမသ္မိ လောကဿ"** "လောက ကြီးမှာ ငါဟာ အကြီးဆုံးပဲ၊ အမြတ်ဆုံးပဲ"လို့ ကြွေးကြော်ပြီးတော့ ဘာတွေပြောတုန်းဆို **"အယ မန္တိမာ ဇာတိ"** "ဒီဘဝဟာ နောက်ဆုံးဘဝပဲ"၊ **"နတ္ထိ ဒါနိ ပုနဗ္ဘဝေါ"** နောက်ဘဝ ငါ့မှာ မရှိတော့ဘူး၊ ဒါ နောက်ဆုံးဘဝပဲဆိုတာကို အလောင်းတော်လေး ဘဝကတည်းက ကြွေးကြော်ခဲ့တယ်။

ဘုရားဖြစ်တော်မူတဲ့အခါကျလည်း ဓမ္မစကြာ ဟောတဲ့ အခါမှာလည်း **"အယမန္တိမာ ဇာတိ နတ္ထိဒါနိ ပုနဗ္ဘဝေါ"** ဆိုတာ မိန့်တယ်၊ ဒီဘဝဟာ နောက်ဆုံးပိတ်ဘဝပဲ၊ နောက်ထပ် ဘဝသစ် ဆိုတာ မရှိဘူး၊ ဘာဖြစ်လို့ မရှိဘူးလို့ ပြောနိုင်တုန်းဆိုရင် ခုနက အဝိဇ္ဇာ၊ တဏှာဆိုတာ ဖယ်ရှားပစ်လိုက်သည့်အတွက်ကြောင့်

http://www.dhammadownload.com



ဘဝဆိုတာ ပြတ်ငြိမ်းသွားပြီ၊ ဒါကြောင့်မို့လို့ **"ခီဏာ ဇာတိ"** ပဋိသန္ဓေနေခြင်းသည် ကုန်သွားပြီ၊ **"ကတံ ကရဏီယံ နာပရံ ဣတ္ထတ္တာယ"** လုပ်စရာတွေအားလုံး လုပ်ပြီးသွားပြီလို့ ဒီလို ပြောတာနော်။

ဒါကြောင့်မို့လို့ ဘဝတစ်ခုကို ဖန်တီးနေတဲ့အရာသည် အဝိဇ္ဇာ၊ တဏှာ၊ ကံ ဒီ ၃- ခုဖြစ်ပါတယ်၊ အဲဒီ ၃-ခု ထဲကနေ ဖယ်ရှားပစ်ရမှာက တဏှာနဲ့ အဝိဇ္ဇာ၊ ကိလေသာကို ဖယ်ရှားပစ်ရမယ်။

ဝဋ် ၃-ပါးနဲ့ ပြောမယ်ဆိုလို့ရှိရင် စက်ဝိုင်းလေးတစ်ခုကို ရေးချလိုက်၊ ထိုစက်ဝိုင်းလေးကို အကန့်လေး ၃-ကန့် လုပ်ကြည့်လိုက်၊ တစ်ခုက ကိလေသာဝဋ်၊ တစ်ခုက ကမ္မဝဋ်၊ တစ်ခုက ဝိပါကဝဋ်၊ အဲဒီစက်ဝိုင်းကလေးကို လှည့်ကြည့်လိုက်မယ် ဆိုလို့ရှိရင် ကိလေသာဝဋ်ဆိုတာ လိုချင်တယ်၊ လိုချင်လို့ ကမ္မဝဋ်ဆိုတာ လုပ်တယ်၊ လုပ်လို့ ဝိပါကဝဋ်ဆိုတာ ရလာတယ်၊ 'လိုချင်တယ်၊ လုပ်တယ်၊ ရတယ်'၊ ရတော့ လိုချင်ပြန်တယ်၊ လုပ်ပြန်တယ်၊ ရပြန်တယ်၊ ဒီလိုနဲ့ သံသရာလည်နေတာ။

အဲဒီမှာ ပထမဆုံး ပယ်ဖျက်ရမှာက ရတာကို ပယ်ဖျက်ဖို့ မလိုဘူး၊ လိုချင်တာကို ပယ်ဖျက်ရမယ်၊ လိုချင်တယ်ဆိုတာ မရှိတော့ဘူး ဆိုလို့ရှိရင် အဲဒီတစ်ကန့် ပြတ်သွားတာနဲ့ နောက်က လုပ်တယ်ဆိုတဲ့ အကန့်လည်း ပျက်သွားတယ်၊ အဲဒီရှေ့က ၂-ကန့် ပျက်သွားတာကိုပဲ ကိလေသာကံ ငြိမ်းသွားတယ်လို့ ပြောတယ်နော်၊ ရှေ့ ၂-ကန့်ပျက်သွားတော့ ဝိပါကဆိုတာ ကျန်နေသေးတယ်၊ အဲဒီကျန်နေတဲ့ဟာက ဒါက နောက်ဆုံးအနေနဲ့

http://www.dhammadownload.com



သူ့ရဲ့သက်တမ်း ကုန်သွားလို့ စုတိစိတ်လေးကျသွားလို့ရှိရင် သူ့ရှေ့ပိုင်းက ကမ္မဝဋ် ဆိုတာလည်း မရှိတော့ဘူး၊ ကိလေသဝဋ် ဆိုတာလည်း မရှိတော့သည့်အတွက်ကြောင့် နောက်ထပ် ဝိပါကဝဋ် ဆိုတာ ထပ်ထုတ်လုပ်နိုင်စွမ်းမရှိလို့ စုတိစိတ် ပြီးတဲ့နောက်မှာ ဘာမှမရှိတော့ဘူး ချုပ်ငြိမ်းသွားတယ်လို့ ဒီလိုပြောတာနော်၊ အဲဒါဟာ ဘဝသစ်ဖြစ်ပုံနဲ့ ဘဝဆိုတာ နောက်ထပ်ကုန်ဆုံးသွားပုံ အင်မတန်မှ ထင်ရှားတယ်။

သို့သော်လည်း ခုနက Reincarnationနဲ့ ရောပြီးတော့ လူ့ရဲ့ ခန္ဓာကိုယ်ထဲမှာရှိတဲ့ အသက် လိပ်ပြာ ဝိညာဉ်ကောင်တွေဟာ တစ်ဘဝကနေ တစ်ဘဝကူးပြောင်းတယ်လို့ ဒီလိုပြောတဲ့အခါ ကျတော့ ရောထွေးပြီးတော့ ဒီဘဝ ကုသိုလ်ကောင်းမှုလုပ်ရင် နောင်ဘဝ ခံစားရတာတွေနဲ့ ရောထွေးပြီးတော့ ဗုဒ္ဓဘာသာ စစ်စစ်က **'သဿတဒိဋ္ဌိ'** အယူဝါဒရှိတဲ့ ပုဂ္ဂိုလ်တွေ ဖြစ်ဖို့က တော်တော်လေး များနေတယ်၊ မစဉ်းစားတတ်လို့ ရှိရင်နော်၊ ဝိပဿနာဉာဏ်အမြင်နဲ့ မကြည့်ဘူးဆိုရင် သဿတဝါဒီ ဖြစ်သွားမှာပဲ၊ ဒါသေချာတယ်။

သဿတဝါဒီဆိုရင် ခုနက သာတိရဟန်းလိုပဲ ဒီ ဝိညာဏ် စိတ်လေးပဲ လှည့်နေတယ်လို့ ဒီလို ထင်သွားတတ်တယ်နော်၊ ဒါကြောင့် ဗုဒ္ဓမြတ်စွာရဲ့ တရားစစ်စစ်အတိုင်း ဗုဒ္ဓရဲ့တရားတော်မှာ Reincarnation ဆိုတာ မရှိဘူး၊ အဝိဇ္ဇာ တဏှာ ကံ မကင်းသေးလို့ ရှိရင်တော့ အဝိဇ္ဇာ တဏှာ ကံ တွေကနေ ထုတ်လုပ်တဲ့ ဘဝဆိုတာ ရှိနေဦးမှာပဲလို့ ဒီလို သဘောပေါက်ပြီး တို့တတွေရဲ့သန္တာန်မှာ ဖြစ်တဲ့ အဝိဇ္ဇာနဲ့ တဏှာကို ပယ်ရှားနိုင်အောင် ကြိုးစားရမှာလို့

http://www.dhammadownload.com



ကိုယ်စီကိုယ်စီ သဘောပေါက်ပြီး အဝိဇ္ဇာ တဏှာ ကင်းရာ ကင်းကြောင်း ကုသိုလ် ကိုယ်ကျင့်တရားများကို ကြိုးစားအားထုတ် ပွားများနိုင်ကြပါစေကုန်သတည်း။



http://www.dhammadownload.com

# မှတ်တမ်း

သာသနာတော်နှစ် ၂၅၅၂-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၇၀ ပြည့်နှစ်၊ တန်ခူးလဆန်း ၆-ရက်နေ့ ရန်ကုန်တိုင်း၊ စမ်းချောင်းမြို့နယ်၊ အောင်ချမ်းသာရပ်ကွက်၊ သီရိမင်္ဂလာလမ်း၊ ကံမြင့်ကျောင်းတိုက် ဓမ္မာရုံအတွင်း ဆင်ယင်ကျင်းပ ပြုလုပ်အပ်သည့် ညဥ့်ဦးယံဓမ္မသဘင် အခမ်းအနားဝယ် ဓမ္မစေတီလမ်း၊ ယုဇနစီးပွားရေးတာဝါ အမှတ်-၂၅/၇၀၅(အေ) နေ ဦးကံထူး + ဒေါ်ခင်ခင်ဝေ၊ သား- မောင်သူရိန်လင်း၏ ၂၆-နှစ်မြောက် မွေးနေ့အလှူ ဓမ္မဒါန အမတဒါနအဖြစ်ဖြင့် ဟောကြားအပ်သော "နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း" တရားတော်။

http://www.dhammadownload.com

# အခန်း - ၁၀

## နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း

'နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း' လို့ ဆိုတဲ့နေရာမှာ စကား နှစ်ခု ရှိတယ်၊ 'နိဗ္ဗာန်' ဆိုတဲ့စကားနဲ့ 'မျက်မှောက်ပြုခြင်း' ဆိုတဲ့ စကား၊ ဗုဒ္ဓဘာသာဝင်တို့ရဲ့ ပန်းတိုင်ဟာ နိဗ္ဗာန်ဆိုတာ ဗုဒ္ဓ ဘာသာဝင်တိုင်း သိကြတယ်၊ သို့သော် နိဗ္ဗာန် အကြောင်းနဲ့ ပတ်သက်ပြီးတော့ သာမန်သိထားတဲ့ ပုဂ္ဂိုလ်တွေ ရှိသလို၊ နိဗ္ဗာန် ဆိုတာ ဘာရယ်လို့ မသိတဲ့ ပုဂ္ဂိုလ်တွေလည်း မြောက်မြားစွာ ရှိတယ်၊ အများက "နိဗ္ဗာန်, နိဗ္ဗာန်" နဲ့ ပြောတာနဲ့ နိဗ္ဗာန်လို့ လိုက်ပြောနေကြတဲ့ ပုဂ္ဂိုလ်တွေလည်း ရှိတယ်။

နိဗ္ဗာန်ကို ဦးတည်ချက်ထားပြီး ဗုဒ္ဓဘာသာဝင် သူတော်စင် တွေ ကုသိုလ်ကောင်းမှု ပြုကြတယ်၊ **'ဣဒံ မေ ပုညံ နိဗ္ဗာနဿ ပစ္စယော ဟောတု'** အစဉ်အလာအရ သင်ကြားပေးထားတဲ့ အတိုင်း နိဗ္ဗာန်ကို ဆုတောင်းကြတယ်။

http://www.dhammadownload.com



## တဏှာချုပ်မှ နိဗ္ဗာန်ရ

သို့သော် "နိဗ္ဗာန်ဆိုတာ ဘာလဲ" - တချို့ကလည်း အကြမ်းဖျင်းအားဖြင့် နိဗ္ဗာန်ကို သိထားတယ်၊ နိဗ္ဗာန်ဟာ အိုခြင်းကင်းရာဖြစ်တယ်၊ နာခြင်းကင်းရာ ဖြစ်တယ်၊ သေခြင်းကင်းရာ ဖြစ်တယ်၊ မအိုရဘူး၊ မနာရဘူး၊ မသေရဘူးလို့ အဲဒီလို ဆိုထားတဲ့အခါကျတော့ နိဗ္ဗာန်က မအိုရ၊ မနာရ၊ မသေရဘူး ဆိုရင်တော့ အမြဲတမ်း ထာဝရနေရမယ်လို့ ဒီလို တွေးမိကောင်း တွေးမိမယ်။

ဘာဖြစ်လို့တုန်းဆိုတော့ သတ္တဝါတွေရဲ့သန္တာန်မှာ "ဘဝတဏှာ" ဆိုတာ ရှိတယ်၊ ဘဝတဏှာဆိုတာ "ဖြစ်နေတာကို ကြိုက်တာ"၊ အမြဲတမ်းဖြစ်နေတာကို ကြိုက်တာ၊ ဖြစ်နေတာကို ကြိုက်လို့ ဘဝတဏှာကို 'သဿတဒိဋ္ဌိ' နဲ့ ယှဉ်တွဲလာတဲ့ တဏှာလို့ ဒီလိုပြောတယ်၊ ဘဝထဲမှာရှိနေတာကို သဘောကျတယ်၊ မရှိတော့ဘူးဆိုရင် သဘောမကျဘူး၊ ဖြစ်နေရတာကိုပဲ ပျော်စရာကြီးလို့ မြင်နေကြတယ်ပေါ့။ ဘဝတဏှာရှိနေရင် ဘယ်ဘဝပဲ ရောက်ရောက်, ရောက်ရာဘဝမှာ ဒီ တဏှာမကင်းတဲ့ ပုဂ္ဂိုလ်တွေဟာ ကိုယ့်ဘဝလေး ကိုယ် ကျေနပ်နေတာဘဲ၊ လူတွေကလည်း ကိုယ့်ဘဝလေး ကိုယ် ကျေနပ်နေကြတာပဲ၊ တိရိစ္ဆာန်တွေကလည်း သူတို့ဘဝ သူတို့ကျေနပ်နေကြတာပဲ၊ မကျေနပ်ဘူးဆိုတဲ့ အချိန်ဟာ အလွန့်အလွန် အဆင်မပြေလို့ ဒုက္ခရောက်တဲ့ အချိန်လေးပဲ။

ဆိုင်ရာဆိုင်ရာ ဘဝမှာ ချမ်းသာသုခလေးတွေ ရရှိနေကြတာ- ကြည့်ရင် ကြက်တွေ ငှက်တွေလည်း ပျော်နေကြတဲ့သဘော ရှိတယ်၊ ကြက်ကလေးတွေဆို လှောင်ချိုင့်ထဲ လှောင်ထားပေမယ့် တစ်ကောင့်တစ်ကောင် ဆိတ်လို့ တွန်လို့ အော်လို့ ပျော်နေကြတဲ့

http://www.dhammadownload.com



သဘောရှိတယ်၊ တစ်ကောင့်တစ်ကောင် ကျီစယ်ကြ ကစားကြနဲ့၊ ဘဝမှာ "ဘဝသုခ"ဆိုတာ ပျော်စရာလေးတွေတော့ ရှိကြတာပဲ၊ ဘဝကို အကြောင်းပြုပြီးတော့ ရလာတဲ့ ပီတိတို့ သုခတို့- ဘဝမှာ ပျော်စရာလေးတွေ၊ အဲဒီပျော်စရာလေးတွေ တွေ့ပြီးတော့ ဘဝမှာ ပျော်နေကြတာပဲ၊ အဲဒီလို ဘဝဆက်တိုင်းဖြစ်ပြီးတော့ နေကြရတာကိုပဲ ကျေနပ်နေကြတာ။ ဘဝတဏှာ မကင်းသေးတဲ့ ပုဂ္ဂိုလ်တွေမှာ နိဗ္ဗာန်မှာ ဘဝဟာ ချုပ်ငြိမ်းသွားတယ်၊ **"ဘဝနိရောဓော နိဗ္ဗာနံ"** ဘဝရဲ့ချုပ်တာ နိဗ္ဗာန်လို့ပြောရင် လန့်ကောင်းလန့်သွားလိမ့်မယ်၊ ဘာဖြစ်လို့တုန်းဆိုတော့ သူတို့က ဖြစ်နေတာကို ကြိုက်တာကိုး၊ ဖြစ်နေတာကိုကြိုက်တော့ မဖြစ်ရတော့ဘူး၊ ဘဝက ချုပ်ငြိမ်းသွားပြီ ဆိုလို့ရှိရင် ချုပ်ငြိမ်းသွားရင် တို့ဘယ်သွားနေရမတုန်းလို့ တွေးမိကောင်း တွေးမိလိမ့်မယ်၊ အဲဒီလို တွေးမိပြီး ကြောက်လန့်ကြတယ်၊ ဒါက ဘဝအပေါ်မှာ စွဲလန်းနေတဲ့ ပုဂ္ဂိုလ်တွေက ဘဝပြတ်သွားမှာ, ဘဝချုပ်သွားမှာကို စိုးရိမ်ကြတယ်၊ အဲဒီပုဂ္ဂိုလ်မျိုးကလည်း တစ်စုရှိတယ်။

အဲဒါနဲ့ ဆန့်ကျင်ဖက် ဘဝတဏှာ ရှိသလို **ဝိဘဝ တဏှာ**၊ **'ဘဝ'** က ဘဝ၊ **'ဝိ'** ဆိုတာ မရှိတော့တာ၊ ဘဝမရှိတော့ တာကို ကြိုက်တဲ့ပုဂ္ဂိုလ်မျိုးက ရှိသေးတယ်၊ အဲဒီဘဝမရှိရင် ပြီးရော၊ သို့သော် သူက ဘဝမရှိကြောင်းတရားကို ကျင့်ပြီးတော့ မရှိတဲ့ ဘဝမျိုး မဟုတ်ဘူး၊ ဘဝတစ်ခုက ချုပ်ငြိမ်းသွားရင် နောက်ဘဝဆိုတာ မရှိချင်ဘူးလို့ ပြောတဲ့ပုဂ္ဂိုလ်တွေလည်း ရှိတာပဲ၊ ဘဝကို ရွံမုန်းပါပြီ နောက်ဘဝဆိုတာ မရှိချင်ပါဘူး၊ မရှိချင်ဘူးဆိုတာ ဘာဖြစ်လို့တုန်းဆိုရင် ဒီဘဝရဲ့ ဒုက္ခတွေ တွေ့တော့ နောက်ဘဝ

http://www.dhammadownload.com



မလိုချင်ဘူးဆိုတာ၊ နောက်တစ်ခုက ဘဝဆိုတာ မရှိဘူး၊ ပြတ်နေတယ်၊ သေသွားရင်ပြီးတာပဲလို့ ဒီလို ယူဆတဲ့ပုဂ္ဂိုလ်တွေ၊ ဥစ္ဆေဒဒိဋ္ဌိနဲ့ ယှဉ်တွဲလာတဲ့ တဏှာတစ်မျိုးက ထူးထူးဆန်းဆန်းပဲ၊ ဘဝမရှိတာကို ကြိုက်တာလည်း တဏှာလို့ ခေါ်တယ်။

ဘဝမရှိတာကို ကြိုက်တာ နိဗ္ဗာန် မဟုတ်သေးဘူး၊ တဏှာလို့ ခေါ်နေပြန်တယ် အဲဒီမှာ၊ သူက မရှိတာကို ကြိုက်ပြန်တာ၊ အဲဒီတော့ တွယ်တာမှုက မရှိတာကို သွားတွယ်တာနေတာ၊ ဘဝပြတ်သွားတာကို တွယ်တာနေပြန်တယ်၊ အဲဒါတွေကို "ဝိဘဝတဏှာ" လို့ ခေါ်ပြန်တယ်။ "ဘဝတဏှာ"လည်း ရှိနေဦးမယ်၊ "ဝိဘဝတဏှာ"လည်း ရှိနေဦးမယ် ဆိုလို့ရှိရင်တော့ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ဦးမှာ မဟုတ်သေးဘူးတဲ့။

**ကာမတဏှာ** ဆိုတာတော့ ရိုးရာလို့ပဲထားပါတော့၊ လူ့ဘဝရလာပြီ ဆိုလို့ရှိရင် မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ် လို့ဆိုတဲ့ အင်္ဂါရပ်တွေ ရထားသည့်အတွက်ကြောင့် ထိုအင်္ဂါရပ်တွေမှာ ပေါ်လာတဲ့ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ လို့ဆိုတဲ့ အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အထိအတွေ့ ဒီအာရုံတွေအပေါ်မှာ ကျေနပ်နေတာ။ အဲဒီ အာရုံတွေပေါ်မှာ တွယ်တာနေတာ "ကာမတဏှာ"၊ အဲဒီတဏှာတွေဟာ အလွန်ပြင်းထန်တဲ့ စွမ်းအားရှိတယ်၊ ဘဝကို ဦးဆောင်ပြီးတော့ တည်ဆောက်နေတာ ဟောဒီတဏှာတွေပဲ၊ ဒါ့ကြောင့်မို့ မြတ်စွာဘုရားက သမုဒယသစ္စာမှာ ဒီတဏှာကို ဦးတည်ပြီးတော့ **'ဒုက္ခသမုဒယော အရိယသစ္စံ'** လို့ ဒီလိုဟောတာ၊ ထိုထို သုတ္တန်တွေမှာလည်းပဲ

http://www.dhammadownload.com



ဘဝကိုဖြစ်စေတတ်၊ **'ဘဝနေတ္တိ'** လို့ ဘဝကို သယ်ဆောင်သွား တတ်တဲ့ တရားလို့ တဏှာကိုပဲ ဦးတည်ပြီးတော့ ပြောလေ့ရှိတယ်။

နိဗ္ဗာန- နိဗ္ဗာန်- ပါဠိစကား - နိဗ္ဗာန ဆိုတဲ့စကားက ဆန့်ကျင်ဖက်နဲ့ ပြောထားတာ၊ **'နိဗ္ဗာန'** ဆိုတဲ့ ပုဒ်လေးကို **နိ+ဝါန** လို့ ဒီလို နှစ်မျိုးအဓိပ္ပါယ် ခွဲပြီးတော့ **'နိ'** ဆိုတာ လွတ်မြောက် သွားတာ၊ **'ဝါန'** ဆိုတာ အတွယ်အတာတဏှာ၊ အတွယ်အတာ တဏှာတွေကနေ လွတ်မြောက်သွားမှ နိဗ္ဗာန်ဆိုတာ ဖြစ်တယ်၊ တစ်မျိုးမျိုးနဲ့ လှည့်တွယ်နေလို့ ရှိရင်တော့ ဒါ တဏှာတွေ ရှိနေ သေးသမျှ၊ တွယ်တာမှုရှိနေသေးသမျှ ဘယ်တွယ်တာမှုပဲဖြစ်ဖြစ် နိဗ္ဗာန်ဆိုတာ မရောက်နိုင်သေးဘူး၊ ဒါ့ကြောင့်မို့လို့ နိဗ္ဗာန်ဆိုတဲ့ နာမည်ကိုက **နိဝါန**၊ **'ဝါန သင်္ခါတာယ တဏှာယ' 'ဝါန'** လို့ဆိုတဲ့ တဏှာမှ **'နိက္ခန္တတ္တာ'** လွတ်ထွက်သွားလို့၊ **နိဗ္ဗာန–** နိဗ္ဗာန်လို့ ခေါ်တာတဲ့၊ ဒါ နိဗ္ဗာန်ဆိုတဲ့ စကားလုံးဟာ အတွယ်အတာကနေ လွတ်မြောက်သွားတဲ့ နေရာလို့ ဒီလိုရည်ညွှန်းတယ်၊ တွယ်တာမှု မရှိနိုင်တဲ့နေရာ။

အဲဒီတော့ ရှေးဦးစွာ မှတ်ရမှာက တို့တစ်တွေ အတွယ် အတာ ရှိနေသေးသမျှ နိဗ္ဗာန်မရောက်သေးဘူးဆိုတာ မှတ်ထား ရမယ်၊ အတွယ်အတာ ကင်းပြတ်သွားပြီဆိုရင် တို့တစ်တွေ နိဗ္ဗာန် ရောက်ပြီလို့၊ အေး တချို့က အဲလိုကျတော့ ပြောကြလိမ့်မယ်၊ "တပည့်တော် ဘယ်သူ့မှ မတွယ်တော့ပါဘူး၊ သားသမီးတွေ အပေါ်လည်း မတွယ်ဘူး၊ ပစ္စည်းဥစ္စာလည်း မတွယ်ဘူး၊ အားလုံး စွန့်လွှတ်ထားပြီ" ဒီလို ပြောကောင်းပြောလိမ့်မယ်၊ တွယ်တာမှု ဆိုတာ တစ်ခုပြီးတစ်ခု လိုက်တွယ်နေတာနော်၊ လွတ်သွားတယ်

http://www.dhammadownload.com



ရယ်လို့ မရှိဘူး၊ သားသမီးမရှိလို့ သားသံယောဇဉ် မရှိဘူး၊ သမီး သံယောဇဉ်မရှိဘူးဆိုတဲ့ ပုဂ္ဂိုလ်က တစ်ခုခု သွားပြီးတော့ သံယောဇဉ် ရှိသေးတာပဲ၊ တစ်ခုမတွယ်ရရင် တစ်ခုသွားတွယ် နေသေးတာပဲ၊ တဏှာရှိနေတဲ့ ပုဂ္ဂိုလ်ဟာ မတွယ်လို့ မရဘူး၊ တွယ်နေသေးတာပဲ၊ နောက်ဆုံး ဘယ်သူ့တွယ်တုန်းဆိုရင် ကိုယ့် ကိုယ်ကို ပြန်တွယ်နေတယ်။

အဓိကကတော့ လူတွေဟာ အတွယ်အတာဟာ ဘယ် အပေါ်မှာ အားအကြီးဆုံးတုန်းလို့ ဆိုလို့ရှိရင် ကိုယ့်ကိုယ်ကိုပေါ် တွယ်တာဟာ အားအကြီးဆုံးပဲတဲ့၊ **'အတ္တသမံ ပေမံ နတ္ထိ'** အဲဒါကြောင့်မို့လို့ မြတ်စွာဘုရားကဟောတယ် 'ကိုယ့်ကိုယ်ပေါ်မှာ တွယ်တာတာလောက် တခြားတွယ်တာမှုက မရှိနိုင်ဘူး' တဲ့။ ကိုယ့်ကိုယ်ဟာ လောကမှာ အချစ်ဆုံးပဲ၊ သားသမီး ချစ်တယ်တို့ တခြားပစ္စည်းချစ်တယ်ဆိုတာ ကိုယ့်အတွက် ချစ်ကြတာ၊ ထင်ကြ တယ် သူ့အတွက်လို့ထင်တယ်၊ မဟုတ်ဘူး - ကိုယ့်အတွက်၊ ဘယ်လို ကိုယ့်အတွက်တုန်းလို့ဆိုတော့ ဒီသား ဒီသမီး ဒီပစ္စည်း ဒီဥစ္စာ ဒီပုဂ္ဂိုလ်နဲ့ နေရလို့ရှိရင် စိတ်ချမ်းသာနေတယ်၊ အဲဒီ စိတ်ချမ်းသာမှုလေးကို ချစ်ခင်နေတာ၊ အဲဒီ စိတ်ချမ်းသာမှုက ဘယ်သူ့ရဲ့ စိတ်ချမ်းသာမှုလဲဆိုတော့ ကိုယ့်ရဲ့ စိတ်ချမ်းသာမှုပဲ၊ သူတို့ရဲ့ စိတ်ချမ်းသာမှု မဟုတ်ဘူး။

ကိုယ့်ရဲ့စိတ်ချမ်းသာမှုကို နှောင့်ယှက်ဖျက်ဆီးလာပြီ ဆိုလို့ ရှိရင် ဘယ်သူ့မှ လက်မခံတော့ဘူး၊ ချစ်လှပါတယ်ဆိုတဲ့ သား လည်း အမွှေပြတ်ကြော်ငြာတာပဲ၊ ချစ်လှပါတယ်ဆိုတဲ့သမီးလည်း အမွှေပြတ် ကြော်ငြာတော့တာ၊ ဘာဖြစ်လို့တုန်းဆို ကိုယ် တန်ဖိုး

